بسم الله الرحمن الرحيم

الحمد لله على جميع النعم والصلاة والسلام على سيدنا محمد واله وصحبه ماجرى المداد بالقلم.

## စင်ကြယ်သော ကြယ်စင်များသို့

(၂၀၁၀)ခုနှစ်....အလွန်သာယာကြည်နူးပြီး မေ့မရနိုင်သည့် ရွှေရောင်နံနက်ခင်း၊ မိခင်ချမ်းမြေ့ကြည်သာ(သာစည်)ﷺနှင့်အတူ ကျွန်ုပ်တို့၏မိခင်မွန်များဖြစ်ကြသော တမန်တော်မြတ်ﷺ၏ကြင်ယာတော်များအကြောင်း အားရပါးရဆွေးနွေးနေခဲ့သည်။

မိခင်ကြီးက ကိုယ်တော့်ကြင်ယာတော်များနှင့် စပ်လျဉ်းပြီး သူမ'ဖတ်ဖူး၊ မှတ်ဖူးသမျှကို အားပါးတရပြောဆိုနေခဲ့သည်။ ထို့နောက် မိခင်မွန်များအကြောင်း သူမကိုယ်တိုင်စုဆောင်းရေးသားထားသည့် မှတ်စုတစ်ခုကိုလည်း ထုတ်ပြခဲ့သည်။

ကျွန်တော်က "အမေ... ဒါလေးက အင်မတန်ကောင်းတဲ့ မှတ်စုတစ်ခုပဲ။ ဒီမှတ်စုမှာ ထပ်ဖြည့်ရမယ့်အချက်လေးတွေရှိနေတယ်။ အထူးသဖြင့် ကိုယ်တော်မြတ်ﷺရဲ့ ကြင်ယာတော်အမြောက်အများနဲ့ လက်ဆက်ခဲ့ရတဲ့ အကြောင်းတရားတွေ၊ အလှတရားတွေ တင်ပြလိုက် ရင် ရွှေပေါ်မြတင်ဘဲ...။ မေမေက "သားရယ်..အဲ့ဒါတွေတော့ မင်းတို့ ဆက်လုပ်ပေါ့။ အမေကတော့ ဒါလေးတွေ စုထားတယ်....ဟု ရိုးရိုးရှင်းရှင်း ပြောကာ သူမ၏မှတ်စုကို ထုတ်ပေးခဲ့သည်။

ထိုနေ့မနက်ဆွေးနွေးပွဲဆုံးဖြတ်ချက်အရ ကျွန်ုပ်အနေဖြင့် မိခင်မွန်တို့အကြောင်းကို အမြန်ဆုံးရေးသားရမည်။ အကြောင်းတရား၊ အကျိုးတရားများကိုလည်း ထည့်သွင်းဖော်ပြရမည်။ အမျိုးသမီးတိုင်း ဤစာအုပ်ငယ်ကို ဖတ်ရှုပြီး သူတို့အတွက် ဘဝလမ်းပြကြယ်များကို ရွေးချယ်နိုင်ပြီး မိမိတို့လျှောက်လမ်းရာ ဘဝခရီးလမ်းအတွက် စံနမူပြုနိုင်ရမည်။ အကြောင်းအရာများမှာလည်း မှတ်သားလွယ်သည့် ပမာဏလောက်သာ ဖြစ်ရမည်။ စသဖြင့်.....

အရှင်မြတ်အလိုတော်ဖြင့် ကိုယ်တော်မြတ် ﷺ နှင့် ပတ်သက်ပြီး စီရည်မှတ်စုတစ်ခုကို "**ကမ္ဘာ့စံနမူနာရှင် ကိုယ်တော်သခင်**" အမည်ဖြင့် (၂၀၁၂)ခုနှစ်တွင် ပထမဆုံးအနေဖြင့်ထုတ်ဝေဖြစ်သွားသည်။

ထို့နောက် မိခင်မွန်များအကြောင်းကို "**လမင်းရဲ့ ကြယ်စင်များ**" အမည်ဖြင့် ဆက်လက်ရေးရန် ကြိုးစားခဲ့သည်။ ဤကဏ္ဍအတွက် မှီငြမ်းကျမ်းများကို စတင်ရှာဖွေပြီး လေ့လာမှတ်သားဖြစ်ခဲ့သည်။ ဤခရီးစတင်ခဲ့သည်မှာ ယနေ့ထိ (၁၄)နှစ်မျှ ကြာညောင်းခဲ့သည်။ အကြောင်းအမျိုးမျိုးကြောင့်အဆုံးမသတ်နိုင်ဘဲ ရှိနေခဲ့သည်။

အကြောင်းတရားတိုင်း၏ နောက်တွင် လူသားမမြင်မသိနိုင်သည့် အရှင်မြတ်၏ ကျေးဇူးတော်များ တိမ်မြုပ်လျက်ရှိနေပါသည်။ ဤစာအုပ်ကို အဆုံးသတ်ရန် ကျွန်တော်အကြိမ်ကြိမ်ကြိုးစားခဲ့ဖူးသည်။ စာဖတ်ပရိသတ်များဘက်ကလည်း "**လမင်းရဲ့ကြယ်စင်များ**" မထွက်သေးဘူးလား....။ ဟူသော မေးခွန်းများ မကြာခနရောက်လာခဲ့

သည်။ သို့သော် (၁၀)စုနှစ်တစ်စုအကြာထိ အခြားစာအုပ်များသာ ရေး ဖြစ်သွားခဲ့သည်။ ဤစာအုပ်ကို အဆုံးမသတ်နိုင်ခဲ့ပါ။

အရှင်မြတ်၏ ကျေးဇူးတော်၊ မိဘ၊ဆရာသမားများ၏ ဒိုအာဖြင့် (၂၀၁၄)ခုနှစ်မှစ၍ မိခင်မွန်တို့နှင့်စပ်လျဉ်းသည့် သမိုင်းဝင်နေရာများ၊ မိခင်မွန်တို့ အနားယူနေသော ကဗုရ်များသို့ရောက်ရှိခဲ့သည်။ မျက်မြင် ကိုယ်တွေ့ လေ့လာခွင့်ရခဲ့သည်။ သွားရောက်ခဲ့သည့် အခါတိုင်း မိခင်မွန် တစ်ပါးမဟုတ်တစ်ပါးထံ အခစားဝင်ခွင့်ရရှိခဲ့သော်လည်း စရိဖ်တွင်ရှိ နေသော မိခင်မွန် မိုင်မူနဟ်သခင်မကြီးနှင့် မဒီနာရွှေမြို့တော်၊ အဝါလီ ရပ်ကွက်ရှိ (မရှ်ရဗဟ် အွမ္မေ့အိဗ်ရာဟီးမ်)ဟု ခေါ်တွင်သော မာရိယဟ် သခင်မကြီးစံမြန်းရာနေရာသို့ မရောက်ခဲ့ပါ။ ယခု(၂၀၂၄)ခုနှစ် ဟဂ်ျခရီး စဉ်တွင် အရှင်မြတ်၏သောင်ဝ်ဖီးက်ပေးမှု၊ ကျေးဇူးရှင်ဆရာကြီး ဟာဇရသ်မော်လာနာမုဖ်သီမုဟမ္မဒ်စူရသီ(ဂျာမေ့အဟ် အတ်စ်အဒီယဟ်- ကျောင်းအုပ်ကြီး)၏လိုက်လံပြသမှုတို့ကြောင့် ကျန်ရှိနေသည့် ထိုနေရာ (၂)ခုသို့လည်း ရောက်ရှိခဲ့သည်။ والحمد لله على ذلك

အခြားတစ်ဖက်တွင် ကျွန်ုပ်တို့ဦးစီးခွင့်ရရှိသည့် အမျိုးသမီး အာလေ့မဟ်ကျောင်းများတွင်လည်း သင်ရိုးစာအုပ်အဖြစ် ဤစာအုပ်ကို ပြဋ္ဌာန်းထားသည်။ သင်ရိုးပါစာအုပ်ဖြစ်နေသည့်အတွက်လည်း အမြန် ဆုံး စီစဉ်ရန် အရေးကြီးလာခဲ့သည်။

ဤစာအုပ်တွင် မုအ်မင်န်တို့၏ မိခင်မွန်များနှင့်ပတ်သက်ပြီး မွတ်စ်လင်မ်တိုင်း သိရှိရန် လိုအပ်သည့်အတိုင်းအတာခန့်ကိုသာ တင်ပြ ထားသည်။ ထိုသို့တင်ပြရာတွင် ဦးစွာ မိခင်မွန်တစ်ပါးနှင့်ပတ်သက်ပြီး

ဦးစွာအကျဉ်းရုံးဖော်ပြသည်။ ထို့နောက် လိုအပ်သည့် ကဏ္ဍများကို အနည်းငယ်အကျယ်ချဲ့ကာ တင်ပြထားသည်။

အကြောင်းအရာတိုင်းကို ခိုင်လုံတိကျသောကျမ်းကြီး၊ကျမ်းငယ်များကိုသာ မှီငြမ်းတင်ပြထားသည်။ ကျမ်းထူသွားမည်ကို စိုးရိမ်သောကြောင့် အညွှန်းများကို အကြောင်းအရာတစ်ခုတိုင်းနောက်တွင် မထည့်သွင်းတော့ဘဲ နောက်ဆုံးမှသာ စုပေါင်းဖော်ပြလိုက်သည်။

အကြောင်းအရာတစ်ခုခု၊ ရက်စွဲတစ်ခုခု၊ အဖြစ်အပျက်တစ်ခုခုနှင့်ပတ်သက်ပြီး အဆိုများ ကွဲပြားနေပါက အခိုင်မာဆုံးသုတေသနပြုချက်ဟု ယူဆရသော အဆိုကိုသာ ရွေးချယ်တင်ပြထားသည်။ အချို့နေရာများတွင် အဆိုနှစ်ခုလုံးတင်ပြထားသည်။

အကြောင်းအရာတစ်ခုတိုင်းနောက်တွင် “ **မိခင်မွန်...........၏ ဘဝမှ သင်ခန်းစာများ**”ဟူ၍ အချို့အချက်အလက်များကို တင်ပြထားသည်။ ဤတင်ပြချက်အပြင် စာရှုသူအနေဖြင့်လည်း မိမိဘက်မှ ဆက်လက် ကောက်နှုတ်နိုင်သည်။

ဤကျမ်းကို ရေးသားရခြင်း၏ အဓိကရည်ရွယ်ချက်မှာ ကျွန်ုပ်တို့မွတ်စ်လင်မ်ထုတစ်ရပ်လုံးနှင့် အဓိက အမျိုးသမီးထုကြီးအား မိခင်မွန်တို့နှင့် မိတ်ဆက်ပေးနိုင်ရန်ဖြစ်သည်။

**မိခင်မွန်အပေါင်းတို့သည်** - အွမ္မသ်အတွက်မည်မျှ အရေးပါခဲ့သည်။ သူမတို့၏ ကျေးဇူးကြောင့် ဟဒီးဆ်တော်ပေါင်းမည်မျှ အွမ္မသ်ထံ ရောက်ရှိခဲ့သည်ကို သိရှိရမည်။

**သူမတို့သည်** - မည်သို့မည်ပုံ အသွင်တူသော အိမ်သူများဖြစ်ခဲ့သည်။ ဇနီး ကောင်းပီသခဲ့သည်။ မိခင်ပီသခဲ့သည်။

**ဤမိခင်မွန်တို့**၏ကျေးဇူးဖြင့် ကိုယ်တော်ﷺ၏ အိမ်တွင်းဘဝကို တိတိပပ သိရှိခဲ့ရသည်။

**မိခင်မွန်တစ်ပါးတိုင်းသည်** - အိမ်ထောင်သည် အမျိုးသမီးတို့၏ အလွှာတိုင်း၊ အခြေအနေတိုင်းအတွက် အကောင်းဆုံး စံနမူနာယူဖွယ်ရာများကို တည်ဆောက်ပြသခဲ့သည်။

**မိခင်မွန်တို့၏** ဘဝလူနေမှုစနစ်သည် မွတ်စ်လင်မ်အမျိုးသမီးတို့အတွက်သာမက ကမ္ဘာပေါ်ရှိ အမျိုးသမီးတိုင်းအတွက် စံနမူနာယူထိုက်ပေသည်။

ထို့ကြောင့် အမျိုးသားတို့သည်လည်း မိမိတို့၏ မိခင်မွန်တို့အကြောင်း သိရှိရန် လေ့လာရမည်။ အမျိုးသမီးတို့သည်လည်း မိမိတို့အတွက် အကောင်းဆုံး စံနမူနာများရှာရန် ဖတ်ရှု၊လေ့လာ၊ လိုက်နာရမည်ဖြစ်ကြောင်း တိုက်တွန်းနှိုးဆော်အပ်ပါသည်။

ဤစာအုပ်ဖြစ်ပေါ်လာစေရန် စွမ်းရည်၊စွမ်းပကားများ ချီးမြှင့်တော်မူသောအရှင်မြတ်ကို စက္ကန့်မလပ် ချီးကျူးထောမနာ ပြုအပ်ပါသည်။ ဤအသိတရားများ ချီးမြှင့်တော်မူသော သွန်သင်ပေးတော်မူသော ကိုယ်တော်မြတ်ﷺအပေါ် ငြိမ်းချမ်းသာယာမှုအပေါင်းခညောင်းတော်မူပါစေ။ ကိုယ်တော့်အပေါ် အရှင့်မေတ္တာမိုးများ ရွာသွန်းဖြိုးတော်

မူပါစေ။ ကိုယ်တော့်အိမ်တော်သူ အိမ်တော်သားများနှင့် ဆွဟာဗာ အပေါင်းတို့အား အရှင်မြတ် ကျေနပ်နှစ်သက် သဘော တူတော်မူပါစေ။

အို..အရှင်မြတ် ဤစာအုပ်ရေးသားနိုင်ရန် တိုက်တွန်းပေးခဲ့သော မိခင်မွန် အတ်စ်မားအ်(ခ)ချမ်းမြေ့ကြည်သာ(သာစည်)၊ ဤသို့ ရေးသားနိုင်ရန် သွန်သင်ပေးခဲ့သည့် ဆရာ၊ဆရာမအပေါင်းတို့အနက် ကွယ်လွန်သွားသူတို့အား အရှင်မြတ် တမလွန်၏ခရီးအချိုး အကွေ့ တိုင်းတွင် လွယ်လင့်တကူ ဖြတ်ကျော်နိုင်ပြီး ဂျန္နသ်သုခဘုံ၏ အမြင့်ဆုံး အဆင့်အတန်း ကို ချီးမြှင့်ပေးသနားတော်မူပါ။

သက်ရှိထင်ရှားရှိနေကြသော ဆရာ၊ ဆရာမများအား သာသနာရေး၊ ပညာရေး၊ ကျန်းမာရေး၊ စီးပွားရေး၊ မိသားစုအရေး၊ လူမှုဆက်ဆံရေး စသည့် ကဏ္ဍအဝဝတွင် ဘရ်ကသ်မင်္ဂလာများ ချီးမြှင့်တော်မူပါ။

ဤစာအုပ်မှ အကျိုးခံစားမည့် စာဖတ်သူ၊ ကြားနာသူ တစ်ဦးတိုင်းနှင့် သင်တပည့်၊ကြားတပည့် အားလုံးတို့ကိုလည်း နှစ်ဘဝနှစ်ဌာနတွင် ကောင်းသော အစားများ ချီးမြှင့်ပေးသနားတော်မူပါစေ။

ဤစာအုပ်ဖြစ်မြောက်ရေးအတွက်အဖက်ဖက်မှ ဝိုင်းဝန်းကြိုးပမ်းပေးခဲ့ကြသော ဆရာများ၊ အထူးသဖြင့် စာအုပ်ကို အစအဆုံး ဖတ်ရှုပေးပြီး အမှာစာချီးမြှင့်ပေးခဲ့သည့် ရှိုင်ခ်အိုမရ် ဆရာ ကျော်ဇင်ထွန်း (စကာ်ာပူ)၊ မော်လာနာ မုဟမ္မဒ် (အလ်ကောင်ဆရီ)နှင့် မုဖ်သီ အဗ်ဒုလ်ဂနီ၊ စာအုပ်အတွက် ခွင့်ပြုချက်များရယူပေးသည့် ဟာဖီဇ်အဗ် ဒုရ်ရဟ်မာန်(ခ) ဆရာကိုလွင်ကိုကိုဦး၊ မြန်မာစာရှုထောင့်မှ စီစစ်ပေးပါသော ကျေးဇူးရှင်ဆရာသခင် အလ်ဟားဂျ် ဆရာ အေးမူ၊ ဆရာဇကရီယာ(ခ)

ဆရာကိုမင်း၊ တပည့်များတွင် မော်လာနာ မုဟမ္မဒ် အွတ်ဆ်မားန်စအီးဒ် (အလ်ကောင်ဆရီ)နှင့်မုဟမ္မဒ် ကအဇ်ဟာစ်၊ ဒေါက်တာ အဇ်ဒုလ်ဂျလီးလ် တို့အား လိုက်လှဲစွာ ကျေးဇူးတင်ရှိပါကြောင်း၊ ဤနေရာတွင် အမည် ဖော်ပြမထားသော်လည်း ရင်တွင်း ထာဝရရှိနေသည့် မိတ်ဆွေသင်္ဂဟ အပေါင်းတို့ကိုလည်း ဤစာအုပ် ငယ်ဖြင့်မှတ်တမ်းတင်ဂုဏ်ပြုအပ်ပါ သည်။

မုဟမ္မဒ်အာစွင်းမ်(နဒ်ဝီ)

Hijri 1446/Rabiul Awwal/(28)

2/10/2024(ဗုဒ္ဓဟူးနေ့)

ﷺ

الحمد لله على جميع النعم والصلاة والسلام على سيدنا محمد واله وصحبه ماجرى المداد بالقلم

## လမင်း၏ကြယ်စင်များ

မိခင်၏ ခြေဖဝါးအောက်တွင် ဂျန္နသ်ရှိသည်။ ကျွန်ုပ်တို့ နဗီ ﷺ ၏ ကြင်ယာတော်များသည်လည်း မိခင်များဖြစ်သည်။ သခင်မတို့သည် သာသနာ့ မိခင်များ၊ နှလုံးသားအတွင်းရှိ မိခင်မွန်များဖြစ်ကြသည်။

## (၁) ကျမ်းမြတ်ကုရ်အာန်နှင့် မိခင်မွန်များ

ကိုယ်တော်မြတ် ﷺ နှင့်ပတ်သက်ဆက်နွယ်နေသည့် အိမ်ပြင်ပမှ အချက်အလက် အလုံး စုံတို့ကို ဆွဟာဗာသာဝကများက 'ဤ''သည်' မရွေး စနစ်တကျ တာဝန်သိသိ သစ္စာရှိရှိဖြင့် ထိန်းသိမ်း လက်ဆင့်ကမ်းခဲ့သည့်အတိုင်း အိမ်တွင်းကိစ္စအဝဝတို့ကို ကိုယ်တော်မြတ်ﷺ၏ကြင်ယာတော် အပေါင်းက ကျွန်ုပ်တို့ထံလက်ဆင့်ကမ်းပေးခဲ့ပါသည်။

ထိုပုဂ္ဂိုလ်မွန်တို့၏ကြိုးပမ်းဆောင်ရွက်ချက်များကို အရှင်မြတ် ကိုယ်တော်တိုင် ကျမ်းမြတ်ကုရ်အာန်တွင် မှတ်တမ်းတင်ထားသည်မှာ ထူးခြားချက်တစ်ရပ်ပင်မဟုတ်ပါလော့...။

မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် မိခင်မွန်တို့ကို أزواج النبي (နဗီ၏အသွင်တူသောအိမ်သူများ)ဟု (၆)ကြိမ်တိုင် မိန့်ထားသည်။ အသွင်တူသော အိမ်သူများဆိုသည်မှာ မိခင်မွန်တို့သည်

အတွေး အခေါ်အရလည်းကောင်း၊ ကိုယ်ကျင့်တရားအရလည်းကောင်း၊ ကျင့်မူရာ အရလည်းကောင်းအနီးဆုံး တူဆင်နိုင်ရန် ကျင့်ကြံအားထုတ် ထား ကြခြင်းကြောင့်ဖြစ်သည်။

သာသနာ ၊ ယုံကြည်ချက်၊ အတွေးအခေါ်၊ ရပ်တည်ချက် မတူ သည့် အခြားနဗီများ၏ ဇနီးသည်များကို ကျမ်းမြတ်ကုရ်အာန်က امرأة (မိန်းမ)ဟူသော စာလုံးကိုသာ သုံးစွဲထားသည်။

## ကိုယ်တော့်ကြင်ယာတော်များ၏ဂုဏ်အင်

ကြင်ယာတော်အပေါင်းတို့သည် သာမန်အမျိုးသမီးများကဲ့သို့ မဟုတ်ကြောင်း ကျမ်းမြတ် ကုရ်အာန် စူရဟ် အဟ်ဇာဗ် ၊ အာယသ် (၃၂)တွင်အတိအလင်း မိန့်ကြားထားသည်။ ဤမိန့်ကြားချက်များ အတိုင်း မိခင်မွန်တို့သည် အရာရာတွင် သူမတူသော အရည်အချင်းများ နှင့် ထူးခြားလျက်ရှိသည်။

အရှင်မြတ်အား အီမာန်ယူခြင်း၊ အရှင့်အပေါ်တွင် ယုံပုံ အားကိုး ခြင်း၊ အရှင့်အတွက် ပေးဆပ်စတေးခြင်း၊ အမိန့်နာခံခြင်း၊ တစ်ပါးသူကို ဦးစားပေးခြင်း၊ ခန္တီတရားလက်ကိုင်ထားခြင်း၊ ရောင့်ရဲတင်းတိမ်ခြင်း၊ ကိုယ်ကျိုးမဖက်ခြင်း၊ အဖန်ဆင်းခံတို့အား ကြင်နာခြင်း၊ အကောင်း လိုလားပေးခြင်း၊ ရက်ရောခြင်း၊ ခွင့်လွှတ်ခြင်းစသည့် မွန်မြတ်လှသည့် ဂုဏ်ရည်များသည် သခင်မကြီးတို့ ဆင်မြန်းခဲ့သည့် အလှတရားများ ဖြစ်သည်။

## စင်ကြယ်သော ကြယ်စင်များ

မြင့်မြတ်တော်မူသော အရှင်မြတ်သည် မိခင်မွန်တို့အား ကိုယ်တော်သခင် ﷺ ၏ ကြင်ယာတော်များအဖြစ် ရွေးချယ်ပြီး သည့်နောက် ခြောက်ပြစ်ကင်းသဲလဲစင်အဖြစ် ထိန်းသိမ်းပေးသနားတော်မူခဲ့သည်။ ထို့နောက် မိမိတို့ ကိုယ်ကို သိက္ခာဝတ်ရုံခြုံပြီး သန့်စင်စွာထားနိုင်ရန်နှင့် ပတ်ဝန်းကျင်ကို သာယာစိုပြေမှုများပေးနိုင်ရန် လမ်းညွှန်ချက်(၅)ခုကို ထုတ်ပြန်ပို့ချတော်မူခဲ့သည်။

၁။ လိုအပ်ချက်မရှိဘဲ အိမ်ပြင်မထွက်ရန်။

၂။ အမိုက်ခေတ်လူနေမှုစနစ်ကို ရှောင်ရှားရန်။

၃။ နမားဇ်ဆောက်တည်ရန်။

၄။ ဇကားသ်ဓါနကြေးပေးဆောင်ရန်။

၅။ အလ္လာဟ်အရှင်မြတ်နှင့်ရစူလ်တမန်တော်မြတ် ﷺ ၏ အမိန့်နာခံရန်။

**ယနေ့ခေတ် မွတ်စ်လင်မ်အမျိုးသမီးများသည်လည်း ဤအချက် များကို လိုက်နာခြင်းအားဖြင့် ကိုယ်တိုင်လည်း စာရိတ္တအလှပိုင်ရှင်များ ဖြစ်ကြပြီး ပတ်ဝန်းကျင်ကိုလည်း သာယာစေသူမများ ဖြစ်နိုင်ပါသည်။**

## (၂) မိခင်မွန်တို့၏ အရေအတွက်

အေမာမ်နဝဝီ ﷺ သခင်သည် ကသာဒဟ် ﷺ သခင်၏ အဆိုတစ်ခုကို အောက်ပါအတိုင်း ဆင့်ပြန်ထားသည်။ " ကိုယ်တော်မြတ် ﷺ သည်

❍ ကြင်ယာတော် (၁၅)ပါးနှင့် လက်ဆက်ခဲ့သည်။

❍ ကြင်ယာတော် (၁၃)ပါးနှင့် အခန်းအပ်ခဲ့သည်။

❍ ကြင်ယာတော် (၁၁)ပါးအား တစ်ပြိုင်တည်း ထားတော်မူခဲ့သည်။

❍ ကွယ်လွန်ချိန် ကြင်ယာတော် (၉)ပါး ကျန်ရစ်ခဲ့သည်။

📖 تهذيب السيرة النبوية للنووي – ص : 44-45 و نور العيون – ص : 80

## (၃) ကိုယ်တော်မြတ် ﷺ ၏ ကြင်ယာတော်အများအပြားနှင့် လက်ဆက်ရခြင်း၏ အကြောင်းတရားများ

အစ္စလာမ်အား တိုက်ခိုက်လိုသူများသည် ကိုယ်တော်မြတ် ﷺ ကို ပစ်မှတ်ထားတိုက်ခိုက်ကြသည်။ မွတ်စ်လင်မ်ထုတစ်ရပ်လုံး၏ နှလုံးသားတွင်း အမြစ်တွယ်လျက်ရှိသော နဗီအချစ်အား အခြေအမြစ်မရှိသော စွပ်စွဲချက်များနှင့် ဆွဲထုတ်ရန်ကြိုးစားနေကြသည်။

ယင်းတို့၏ သွားပုပ်လေလွင့်ပြောဆိုချက်များအနက် တစ်ခုမှာ ကိုယ်တော်မြတ် ﷺသည် "ယာဂရာဇာ"ဖြစ်သည် ဟူသော စွပ်စွဲချက် ဖြစ်သည်။ نعوذ بالله من ذلك

ယင်းတို့၏စွပ်စွဲချက်များသည်အခြေအမြစ်မရှိကြောင်း အောက်ပါ အချက်များက သက်သေထူနေပါသည်။

၁။ ကိုယ်တော်မြတ် ﷺ သည် သက်တော် (၂၅)နှစ်အရွယ်တွင် (၄၀)ကျော် အရွယ်ရှိ အမျိုးသမီးနှင့် ထိမ်းမြားခဲ့ခြင်း။ ထိုအမျိုးသမီး တစ်ဦးတည်းဖြင့် (၂၅)နှစ်တိတိ နေထိုင်ခဲ့ခြင်း။ ထိုအမျိုးသမီး မဆုံးခင် အထိ အခြားမည်သည့်အမျိုးသမီးနှင့်မျှ ထိမ်းမြားမှု မပြုခဲ့ခြင်း။

၂။ ထိုသခင်မကြီး ကွယ်လွန်ပြီးနောက် ပထမဆုံး ထိမ်းမြားခဲ့သည့်မိခင်မွန် စောင်ဒဟ်رضي الله عنهاသခင်မသည် အသက်(၅၀) အရွယ် မုဆိုးမ တစ်ဦးဖြစ်ခြင်း။ သခင်မကြီးနှင့်အတူ (၄)နှစ်တိတိနေထိုင်ခဲ့ခြင်း။

၃။ ဟစ်ဂျ်ရီ (၁)ခုနှစ်တွင် အပျိုစင် မိခင်မွန် အာအေ့ရှာ رضي الله عنها နှင့် လက်ဆက်ခဲ့ခြင်း။

၄။ သက်တော် (၅၃)နှစ်အရွယ် ဇရာပျိုယိုယွင်းချိန်မှသာ အခြားသော ကြင်ယာတော်များနှင့် လက်ဆက်ခဲ့ခြင်း။

၅။ ထိုအချိန်မှစ၍သာ ဟစ်ဂျ်ရီ (၇)ခုအတွင်း မိခင်မွန် (၉)ပါးနှင့် လက်ဆက်ခဲ့ခြင်း၊ ဟစ်ဂျ်ရီ (၁၀)ခုနှစ်တွင် ကိုယ်တော်မြတ် ﷺ ဝဖားသ် ဖြစ်သွားခြင်း။

## ကျမ်းမြတ်ကုရ်အာန်တွင် အရှင်မြတ်၏ထောက်ခံချက်များ

ကိုယ်တော်မြတ် ﷺ ၏ ကြင်ယာတော်အများအပြားနှင့် လက်ဆက်ခြင်းကို အရှင်မြတ်ကိုယ်တော်တိုင် ကျမ်းမြတ်ကုရ်အာန်တွင် ထောက်ခံ အတည်ပြုထားသည်။ အချို့သောထိမ်းမြားခြင်းများကို အရှင်မြတ် ကိုယ်တော်တိုင်က စေခိုင်းထားကြောင်း ဖော်ပြထားသည်။ ((၃၃ (အဟ်ဇာဗ် - ၃၇)တွင်အကျယ်တဝင့်လေ့လာနိုင်သည်။

ယခုဆက်လက်၍ ကျမ်းမြတ်ကုရ်အာန်၊ ဟဒီးဆ်တော်များ၊ စီရသ်ကျမ်းလာ အချက်အလက်များကို ကိုးကားပြီး ကိုယ်တော်မြတ် ﷺ ၏ ကြင်ယာတော် အများအပြားနှင့် လက်ဆက်ရခြင်း အကြောင်းတရားများ လျှို့ဝှက်ချက်များကို လေ့လာကြည့်ကြပါစို့......

ကိုယ်တော်သခင် ﷺ သည် အောက်ပါအချက်များကြောင့် ကြင်ယာတော်အများအပြားနှင့် ထိမ်းမြားခဲ့ရခြင်းဖြစ်သည်။

(၁) ပညာရေးနှင့် ပြုစုပျိုးထောင်ရေးအတွက်

(၂) တရားတော်လာအမိန့်တော် တစ်ရပ် ပြဋ္ဌာန်းရေးအတွက်

(၃) သာသနာလွှမ်းမိုးလာစေရန်အတွက်

(၄) ထုံးတမ်းဓလေ့များအား ပြုပြင်တည့်မတ်ရန်အတွက်

(၅) ကရုဏာပြယုဂ် ဖော်ထုတ်ပြသရန်အတွက်

(၆) ပတ်ဝန်းကျင်ထူထောင်ရေးအတွက်

(၇) နိုင်ငံရေးအကျိုးတရားများအတွက်

**(၁) ပညာရေးနှင့် ပြုစုပျိုးထောင်ရေးအတွက်**

" မြင့်မြတ်တော်မူသော အရှင်မြတ်သည် လူသားတို့အား အာယသ်တော်များ ဖတ်ကြား ပြသပေးရန်၊ ၎င်းတို့အား ပဲ့ပြင်ပေးရန်၊ ကျမ်းမြတ်ကုရ်အာန်နှင့် ကုရ်အာန်အသိပညာများကို သွန်သင်ပေးရန် ရစူလ်တစ်ပါးအား ၎င်းတို့ထဲတွင် စေလွှတ်တော်မူကြောင်း" စူရဟ် ဗကရဟ် အာယသ် (၁၅၁)တွင် ဖော်ပြထားသည်။

ဤအမိန့်သည် အမျိုးသား၊ အမျိုးသမီးအားလုံးကို သွန်သင် ပဲ့ပြင်ရန် အကျုံးဝင်သည်။ ထိုသို့သွန်သင်ရာတွင် ကဏ္ဍအလုံးစုံကို သင်ကြားပေးရသည်။ အိမ်တွင်း၊အိမ်ပြင်ကိစ္စအဝဝ၊ တစ်ကိုယ်ရည် သန့်ရှင်းမှုကဏ္ဍ၊ ဇနီးမောင်နှံတို့၏ အိမ်ထောင်ရေးကဏ္ဍ စသည်ဖြင့်...

အထက်ပါ ကဏ္ဍအဝဝကို အကောင်အထည်ဖော်ရန် အပျိုစင် ထက်ပင် ရက်တတ်သော ကိုယ်တော်မြတ်အတွက် ကြင်ယာတော်များ ၏ ပါရမီဖြည့်စွက်မှုဖြင့် လွယ်ကူသွားခဲ့သည်။ အခြားတစ်ဖက်တွင် အမျိုးသမီးတို့နှင့်သာ သက်ဆိုင်သော မတ်စ်အ်လဟ်များကို အမျိုးသမီး အချင်းချင်းသာ ဖြေရှင်းခြင်းအားဖြင့် ပိုမိုထိရောက်မှုရှိသည်။

အထက်ပါ တင်ပြချက်ကို ဥပမာအချို့ဖြင့် ရှင်းပြပါမည်။

"ဆွဟာဗီယာအမျိုးသမီးတစ်ဦးသည် ကိုယ်တော်မြတ် ﷺ ထံ အခစားဝင်ပြီး ရာသီသွေး ဆင်းပြီးချိန် သန့်စင်နည်းကို လာရောက် မေးမြန်းခဲ့သည်။ ကိုယ်တော်မြတ် ﷺက ရေချိုးနည်းကို ဦးစွာ မိန့်ကြား

တော်မူလိုက်သည်။ ထို့နောက် ဝါဂွမ်းကို အသုံးပြုရန် မိန့်ကြားခဲ့သည်။ ထိုအမျိုးသမီးက ဝါဂွမ်းအသုံးပြုနည်း အသေးစိတ်ကို အကြိမ်ကြိမ် မေးမြန်းရာ မိခင်မွန် အာအေရှာ رَضِيَ اللَّهُ عَنْهَا သခင်မကြီးက ထိုဆွဟာဗီယာကို အခန်းတွင်းသို့ ခေါ်ဆောင်သွားပြီး " အသင်မ၏ အရှက်အင်္ဂါ တစ်ဝိုက်တွင် မည်သို့မည်ပုံ ထားရှိခြင်းကို ဆိုလိုကြောင်း ရှင်းပြလိုက်မှ သဘောပေါက်သွားခဲ့သည်။" ဤအတိုင်း အခြားအခြားသော အမျိုးသမီးတို့၏ မတ်စ်အလဟ်များစွာကို မိခင်မွန်တို့မှ ဝိုင်းဝန်းဖြေရှင်းပေးခဲ့ကြောင်း သမိုင်းစာမျက်နှာများက သက်သေထူနေပါသည်။

ဖြေရှင်းရခက်ခဲသည့် အမျိုးသမီးမတ်စ်အလဟ်များနှင့်အတူ ဘဝ၏အရေးပါလှသည့် ဟဒီးဆ်တော်ပေါင်း (၂၈၂၂)ပုဒ်ကို မိခင်မွန် အာအေရှာသခင်မက အွမ္မာသ်ကို လက်ဆင့် ကမ်းပေးခဲ့ပါသည်။

ဗိုခါရီကျမ်းတွင် ဟဒီးဆ်တော်ပေါင်း (၇၃၉၇)ပုဒ်ရှိပြီး၊ ထပ်တလဲလဲ လာရှိသော ဟဒီးဆ် တော်များကို ဖြုတ်လိုက်ပါက (၂၆၀၂)ပုဒ် ကျန်ရှိသည်။ ထိုအနက် ဟဒီးဆ်တော်ပေါင်း(၂၂၀)သည် မိခင်မွန်များ၏ ဆင့်ပြန်ချက်ဖြစ်သည်။

မွတ်စ်လင်မ်ကျမ်းတွင် ဟဒီးဆ်တော်ပေါင်း (၇၂၅၇)ပုဒ်ရှိသည်။ ထပ်နေသော ဟဒီဆ်တော်များကို ဖယ်လိုက်ပါက (၄၀၀၀)ပုဒ်ခန့် ကျန်ရှိမည်။ ထိုအနက် မိခင်မွန်တို့၏ ဆင့်ပြန်ချက်များမှာ (၁၁၇၁)ပုဒ်ခန့်ရှိသည်။

အေမာမ်ဗိုခါရီနှင့်အေမာမ်မွတ်စ်လင်မ်တို့နှစ်ဦးလုံး ပူးပေါင်းဆင့်ပြန်ထားသည့် ဟဒီးဆ်တော်ပေါင်း (၁၉၀၆)ပုဒ်ကို ဒေါက်တာ

ဖို့အားဒ် အဗ်ဒုလ်ဘာကီက မိမိ၏ اللؤلؤ والمرجان ကျမ်းတွင် ဖော်ပြထားသည်။ ထိုဟဒီးဆ်တော်များတွင် မိခင်မွန်တို့ ဆင့်ပြန်ထားသည့် ဟဒီးဆ်တော်များမှာ (၇၁၆)ပုဒ်ဖြစ်သည်။

## (၂) တရားတော်လာအမိန့်တော်တစ်ရပ် ပြဋ္ဌာန်းရေးအတွက်

ယခုဆက်လက်ပြီး တရားတော်လာအမိန့်တော်တစ်ရပ် ပြဋ္ဌာန်းရေးအတွက် လက်ဆက်ခဲ့သည့် အချို့သော ပုံရိပ်များကို ဖော်ပြပါမည်။

အစ္စလာမ် သာသနာတော် မထွန်းကားမီ အမိုက်ခေတ်တွင် မွေးစားသားများကို သားအရင်းကဲ့သို့ သတ်မှတ်သည့်ဓလေ့တစ်ခုရှိခဲ့သည်။ တစ်ဦးတစ်ယောက်က အခြားတစ်ယောက်က "အသင်သည် ကျွန်ုပ်၏သားဖြစ်သည်၊ ငါ၏အမွေကို ဆက်ခံပိုင်ခွင့်ရှိသည်၊ ငါသည်လည်း အသင်၏အမွေကိုဆက်ခံပိုင်ခွင့်ရှိသည်"ဟု ဆိုလိုက်ရုံဖြင့် ထိုမွေးစားသားသည် သားအရင်းကဲ့သို့ အမွေဆက်ခံပိုင်ခွင့်ရှိသွား သည်။ မွေးစားသူ၏ သားသမီးများနှင့်လည်းအိမ်ထောင်ပြုခွင့် မရှိတော့ ပေ။ မွေးစားသူနှင့်တော်စပ်သော ဆွေးမျိုးအရင်းအခြာများသည်လည်း ထိုမွေးစားသားနှင့် အရင်းအခြာကဲ့သို့ဖြစ်သွားပြီး "မဟ်ရမ်" တစ်သက်လုံး နေကာမပိုင်တော့ချေ။

ဤမှားယွင်းသော ဓလေ့ကို အစ္စလာမ်သာသနာတော်မြတ်က ချစ်နဗီ ﷺ ၏ အကြောင်းခံဖြင့် အောက်ပါအတိုင်းပယ်ဖျက်ပစ်ခဲ့သည်။

ကိုယ်တော်မြတ်ﷺသည် နဗီမဖြစ်မီအလျင် ဇိုင်ဒ်ဗင်န်ဟာရေ့ဆာﷺသခင်အားမွေးစားသားအဖြစ် သတ်မှတ်ခဲ့သည်။ ပတ်ဝန်းကျင်ရှိ ပုဂ္ဂိုလ်တို့ကလည်း “ ဇိုင်ဒ်ဗင်န်မုဟမ္မဒ်”ဟု ခေါ်ဝေါ်ခဲ့ ကြသည်။

ထိုအချိန် “ အသင်တို့သည် ၎င်းတို့အား ၎င်းတို့၏ ဖခင်များနှင့် ဆက်စပ်ကာ(မည်သူ မည်ဝါ၏သားဖြစ်သည်)ဟု ခေါ်ဝေါ်ကြလေကုန်။ ဤသည်သာလျှင် အလ္လာဟ်အရှင်မြတ် အထံတော်၌ တရားအမျှတဆုံးဖြစ်၏။” ဟူသော စူရဟ်အဟ်ဇာဗ် ၊ အာယသ်တော် (၅)ကျရောက်လာခဲ့သည်။ ထိုအခါ ကိုယ်တော်မြတ် ﷺက သခင့်အား ဇိုင်ဒ်ဗင်န် ဟာရေ့ဆားဗင်န်ရှုရာဟီးလ်ﷺ ဟု ပြန်ပြောင်း ခေါ်ဝေါ်ခဲ့သည်။

ထို့နောက် ကိုယ်တော်မြတ် ﷺ က ဇိုင်ဒ်သခင်ကို မိမိ၏ညီမဝမ်းကွဲတော်စပ်သည့် ဇိုင်နဗ် ဗင်န်သေ့ဂျဟရှ် ﷺနှင့် ထိမ်းမြားပေးခဲ့သည်။ သို့သော် သခင်တို့အိမ်ထောင်ရေးမှာ အကြောင်း အမျိုးမျိုးကြောင့် မသာယာခဲ့ပါ။ အဆုံးတွင် သွလားက်ဖြင့် လမ်းခွဲခဲ့ရသည်။

မြင့်မြတ်တော်မူသော အရှင်မြတ်က မွေးစားသားတို့နှင့် စပ်လျဉ်းသည့် ဂျာဟေ့လီယသ် (အမိုက်ခေတ်)ဆိုင်ရာ ထုံးတမ်းစဉ်လာကို ပယ်ဖျက်သောအားဖြင့် ကိုယ်တော်မြတ်ﷺအား ဇိုင်နဗ်သခင်မနှင့် ထိမ်းမြားရန် အမိန့်တော်တစ်ရပ် ထုတ်ပြန်တော်မူခဲ့သည်။

ကိုယ်တော်သခင်ﷺ ကလည်း အစ္စလာမ့်ရန်သူတို့ဘက်မှ “မိုဟမ္မဒ်က သူ့မွေးစားသားရဲ့ ဇနီးဟောင်းနဲ့ထိမ်းမြားလိုက်ပြီ”ဟူသော သွားပုပ်လေလွှင့်ပြောဆိုမည်ကို စိုးရိမ်ပြီး အချိန်ကာလ တစ်ခုအထိ

စောင့်ဆိုင်းနေခဲ့သည်။ ထိုအချိန် အရှင်မြတ်ဘက်တော်မှ "အသင်သည် လူတို့အား စိုးရိမ်လျက်ရှိခဲ့၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ် အားသာလျှင် အသင်သည် ပိုမိုစိုးရိမ်ထိုက်၏။" ဟူ သော စူရဟ် အဟ်ဇာ့ဗ် အာယသ်(၃၇)ကို ထုတ်ပြန်ပို့ချတော်မူခဲ့၏။ ထို့နောက် " ငါအရှင်မြတ်သည် (ထိုဇိုင်ဒ်သခင်၏ဇနီးဖြစ်သူ)နှင့် အသင် ကိုယ်တော့် အား ထိမ်းမြားပေးတော်မူသည်။ သို့မှသာ မုအ်မင်န်တို့အဖို့ မိမိတို့မွေး စားသားများကကွာရှင်းပြတ်စဲလိုက်သော ဇနီးမယားတို့ဖြင့် ထိမ်းမြား ခြင်းတွင် တစ်စုံတရာပြဿနာမရှိတော့ချေ"သော အာယသ်တော်ကို လည်း ထုတ်ပြန်ပေးသနားတော်မူခဲ့သည်။

ဤသို့ဖြင့် အမိုက်ခေတ်တွင် အရိုးစွဲနေသော မွေးစားသားများ ကို သားအရင်းကဲ့သို့ သတ်မှတ်သည့် အလေ့အထလည်း ကျူပင်ခုတ် ကျူငုတ်မကျန် အမြစ်လှန်သွားခဲ့တော့သည်။

ကိုယ်တော်မြတ် ﷺ၏ ဤနေကာပြုခြင်းသည်လည်း မိမိ၏ ယာဂရမ္မက်၏ တွန်းအားကြောင့် မဟုတ်ခဲ့။ သို့သာမက တရားတော် လာ အမိန့်တော်တစ်ရပ် ပြဋ္ဌာန်းရေးအတွက်သာ ဖြစ်ခဲ့ကြောင်းထင်ရှား လှသည်။

## (၃) သာသနာလွှမ်းမိုးလာစေရန်အတွက်

ကိုယ်တော်မြတ် ﷺ ဤလောကသို့ ကြွမြန်းလာသည့် ရည်ရွယ် ချက်များတွင် သာသနာတော်လွှမ်းမိုးလာစေရန်လည်း အပါအဝင်ဖြစ် သည်။ စူရဟ်သောင်ဗ်ဗဟ်အာယသ်(၃၃)၊ စူရဟ်ဖွတ်ဟ်ဖ် အာယသ်(၉)တို့ တွင်" ထိုအရှင်မြတ်သည် မုရှ်ရိက်တို့ မနှစ်မြို့ကြလင့်ကစား မိမိ၏

ရစူလ်တမန်တော်အား တရားလမ်းမှန်နှင့်လည်းကောင်း၊ မှန်ကန်သော သာသနာတော်ဖြင့် ဘာသာသာသနာ အလုံးစုံတို့ထက်ဝယ် လွှမ်းမိုးစေတော်မူရန်စေလွှတ်တော်မူခဲ့သည်။” ဤရည်ရွယ်ချက်အတွက် စစ်မက်တိုက်ခိုက်ခြင်းအပြင် အခြားသော နည်းလမ်းများကိုလည်း ရွေးချယ်ခဲ့ရသည်။ အချို့သောမျိုးနွယ်ဝင်အမျိုးသမီးများနှင့် ထိမ်းမြားလိုက်ခြင်းဖြင့် ဆွေမျိုးကွန်ယက်ကျယ်ပြန့်လာမည်။ အဆက်အသွယ်များလည်း ပိုမိုခိုင်မာ လာမည်ဖြစ်သည်။

❑ ဤသို့ဖြင့် အဗူဗက်ရ် ﵁ သခင်၏ သမီးတော် အာအေရှာ ﵂နှင့်ထိမ်းမြားလိုက်ရာ ဗနူသမီးမ်မျိုးနွယ်ဝင်အားလုံး ကိုယ်တော်သခင် ﷺ နှင့် ပိုမိုနီးကပ်သွားခဲ့သည်။

ဗနူသမီးမ်မျိုးနွယ်ဆိုသည်မှာ ကိုရိုင်ရှ်မျိုးနွယ်ဝင်တို့၏လူသတ်မှု ဆိုင်ရာအမှုများကို ဆုံးဖြတ်ပေးရသည့် အာဏာပိုင်ဖြစ်သည်။

❑ အိုမရ် ﵁သခင်၏ သမီးတော် ဟဖ်ဆွာ ﵂ နှင့် ထိမ်းမြားလိုက်ရာ ကိုရိုင်ရှ်တို့၏ သံတမန် ရေးရာကို တာဝန်ယူထားရသည့် ဗနူအဒီမျိုးနွယ်ဝင်တို့အားလုံး ကိုယ်တော်မြတ်ﷺ၏ ဆွေမျိုးများဖြစ်သွားခဲ့တော့သည်။

❑ မိခင်မွန် အွမ္မေ့စလမဟ် ﵂သည် ခါလိဒ်ဗင်န်ဝလီးဒ် ﵁၏ မျိုးနွယ်ဝင်ဖြစ်ခဲ့သည်။ သခင်ကြီး၏ အကြောင်းခံဖြင့် အစ္စလာမ် သာသနာတော်၏ ဂုဏ်များ မြင့်တက်ခဲ့ရသည်မှာ ငြင်းမရနိုင်ပါ။

❑ အဗူစွဖ်ယာန်၏ သမီးတော် မိခင်မွန် အွမ္မေ့ဟဘီဘာ رضي الله عنها နှင့် လက်ဆက်ပြီးသည့်အချိန်မှစ၍ အဗူစွဖ်ယာန်သည် အစ္စလာမ်ကို ရန်မပြု တော့ဘဲ ပြေငြိမ်းရေးကိုသာ ကမ်းလှမ်းလာတော့သည်။

❑ မိခင်မွန် ဂျူဝိုင်ရီယဟ် رضي الله عنها သခင်မကြီးသည် ယဟူဒီမျိုးနွယ် ဗနူ မွတ်စ်သွလတ်က်၏ အသဲညွှာဖြစ်သည်။ ဤမျိုးနွယ်ဝင်တို့သည် အစ္စလာမ်ကို အလွန်အမုန်းထားသည့် မျိုးနွယ်ဖြစ်ခဲ့သည်။ သို့သော် ဤသူတို့မှာ အကြောင်း မလှဘဲ စစ်ရှုံးပြီး ကိုယ်တော်သခင့်ထံ သုံ့ပမ်းအဖြစ် ရောက်ရှိလာခဲ့သည်။ ထိုသုံးပမ်းများတွင် မိခင်မွန် ဂျူဝိုင်ရီယဟ် رضي الله عنها သခင်မကြီးလည်း ပါဝင်ခဲ့ရာ ကိုယ်တော် ﷺက သခင်မနှင့် ထိမ်းမြားခဲ့ပြီး သုံးပမ်းအဖြစ် ဖမ်းဆီးခံ ထားရသည့် သခင်မ၏ မျိုးနွယ်ဝင်အားလုံးတို့ကိုလည်း လွတ်ငြိမ်းချမ်း သာခွင့် ချီးမြှင့်လိုက်ရာ အချို့မှာ အစ္စလာမ်သာသနာဝင်များပင်ဖြစ် သွားခဲ့သည်။

❑ မိခင်မွန် ဆွဖီယာဟ် رضي الله عنها သည် ဟိုယိုင်ယ်ဗင်အခ်သွဗ်အမည်ရှိ ယဟူဒီ ခေါင်းဆောင်၏ သမီးမြတ်ရတနာဖြစ်ခဲ့သည်။ သခင်မသည်လည်း သုံးပမ်းအဖြစ် ဖမ်းဆီးခြင်းခံခဲ့ရသည်။ ကိုယ်တော် ﷺ က သခင်မကို သူကောင်းပြုပြီး ထိမ်းမြားလိုက်ရာ သခင်မ၏ မျိုးနွယ်ဝင်အားလုံးက မိမိတို့၏ သားမက်ဖြစ်သူနှင့် စစ်မက်တိုက်ခိုက်ခြင်းသည် အရှက်ရဖွယ် ရာ ကိစ္စရပ်ဖြစ်သည်ဟုဆိုကာ မဟာမိတ်များအသွင် ပြောင်းလဲသွားခဲ့ သည်။

❑ ကိုယ်တော်မြတ် ﷺ သည် အွမ္မရဟ်ကဇွာပြုချိန်ဟစ်ဂျ်ရီ (၇)ခုနှစ်တွင် မိခင်မွန် မိုင်မူနဟ် رضي الله عنها နှင့် ထိမ်းမြားခဲ့သည်။ သခင်မကြီး

သည် အစ္စလာမ် စတင်ထွန်းကားစဉ်ကတည်းက ဒုက္ခမျိုးစုံပေးခဲ့သော နဂျ်ဒ်မျိုးနွယ်မှ ဖြစ်သည်။ ဤထိမ်းမြားခြင်း၏ မင်္ဂလာဖြင့် နဂျ်ဒ်မျိုးနွယ်ဝင် အားလုံးတို့သည် အစ္စလာမ်နှင့် ကိုယ်တော်မြတ် ﷺ ကို ကာကွယ်စောင့်ရှောက်ပေးခဲ့သည့် အမာခံ ပုဂ္ဂိုလ်များဖြစ်သွားခဲ့ကြသည်။

အချုပ်ဆိုရသော် ကိုယ်တော်မြတ် ﷺ၏ ဤကဲ့သို့ လက်ဆက်ခဲ့ခြင်းများသည် အစ္စလာမ်သာသနာတော်မြတ်၏ မျှတလှစွာသော လူနေမှုစနစ် ကမ္ဘာမြေပေါ် ပျံ့နှံ့ပြီး အစ္စလာမ့် အောင်လံ လွှင့်ထူနိုင်ရန် အကြောင်းခံ တစ်ရပ်ဖြစ်ခဲ့ရသည်။

## (၄) ထိုးတမ်းခလေ့များအား ပြုပြင်တည့်မတ်ရန်အတွက်

ကိုယ်တော်မြတ် ﷺ ဤလောကသို့ ကြွမြန်းလာခြင်းတွင် လူသားတို့အပေါ်ရှိ ဝန်ထုပ်ဝန်ပိုးများကို ချပေးရန်လည်း အပါအဝင် ဖြစ်သည်။

စူရဟ် အအ်ရားဖ် (၁၅၇)တွင် " ယင်းနဗီ၊ ရစူလ် တမန်တော်မြတ်သည် ထိုသူတို့အား ကောင်းမှုပြုလုပ်ကြရန် ညွှန်ကြားသည့်အပြင်၊ မကောင်းမှုဒုစရိုက်များမှ ကြဉ်ရှောင်ရန် တားမြစ်လေသည်။ ၎င်းပြင် ထိုသူတို့အဖို့ စင်ကြယ်သော အရာများကို (စားသုံး)ခွင့်ပြုကာ မသန့်စင်သော အရာများကို စားသုံးခြင်းမပြုကြရန်တားမြစ်လေသည်။ **ထို့မှတပါး ထိုသူတို့အပေါ်၌ (ယခုထိတိုင်)တင်ရှိနေသောဝန်နှင့် လည်ကွင်းများ(အတုတ်အနှောင်များ)ကိုလည်း ၎င်းတို့အပေါ်မှ ချ၍ပေးလေသည်။** သို့ဖြစ်ပေရာ အကြင်သူတို့သည် ထိုစူလ် နဗီတမန်တော်မြတ်အား ယုံကြည်ခဲ့ကြလေသည်။ ၎င်းအပြင် ထိုနဗီတမန်တော်မြတ်အား စောင့်ရှောက်ခဲ့ကြလေသည်။ ထိုမှတပါး ထိုရစူလ်တမန်တော်အား ကူညီယိုင်းပင်းခဲ့ကြလေသည်။ ထို့ပြင် ထိုရစူလ် တမန်တော် မြတ်နှင့်အတူ ကျရောက်လာသော (ကုရ်အာန်ကျမ်းတော်မြတ်တည်းဟူသော) လင်းရောင်ခြည်ကိုလည်း လိုက်နာခဲ့ကြလေသည်။ ထိုသူတို့သည်သာလျှင် အောင်မြင်သောသူများ ဖြစ်ကြကုန်သတည်း။"

အထက်တွင် ဖော်ပြခဲ့သောဝန်နှင့်လည်ကွင်းများ၊ အတုတ်အနှောင်များ ဆိုသည်မှာ အရဗ်လူ့အဖွဲ့အစည်းအပေါ် လွှမ်းမိုးလျက်ရှိခဲ့

သော မိုက်မဲလှပြီး လူ့သဘာဝနှင့် ဆန့်ကျင်သည့် ထုံးတမ်း ဓလေ့ဆိုး များကို ဆိုလိုခြင်းဖြစ်သည်။

ရာစုနှစ်ပေါင်းများစွာကတည်းက မင်းမူနေခဲ့သည့် ယင်းအယူ ဝါဒများကို တည့်မတ်ရန် မြင့်မြတ်တော်မူသော အရှင်မြတ်က ကိုယ် တော်မြတ် ﷺအား အချို့သော ထိမ်မြားမှုများကို ပြုစေခဲ့သည်။

ယင်းတို့အနက် တစ်ခုမှာ - အမိုက်ခေတ်၏ အရဗ်ထုံးတမ်းစဉ် လာတစ်ခုအရ တစ်ဦး တစ်ယောက်က အခြားသူတစ်ဦးအား "အသင် သည် ကျွန်ုပ်၏ နောင်တော်ဖြစ်သည်"ဟု ပြောဆိုလိုက်ပါက ထိုသူ နှစ်ဦးသည် ညီအစ်ကိုအရင်းဖြစ်သွားပြီး ယင်း၏သမီးများသည် ထိုညီ နောင်အတွက် ထိမ်းမြားခြင်း ဟရာမ်ဖြစ်သွားရသည်။

ကိုယ်တော်မြတ် ﷺ သည် မိမိ၏သာသနာရေးနောင်တော် အဗူဗက်ရ် ؓ ၏ သမီးတော် အာအေရှာ ؓအား မင်္ဂလာကမ်းလှမ်း သောအခါ အဗူဗက်ရ် ؓ သခင်ကြီးက "ကိုယ်တော်မြတ် ﷺ နှင့်တူမ အာအေရှာ နေကာပိုင်ပါသလား"ဟု အံ့သြစွာမေးမြန်းခဲ့သည်။ ထိုမှား ယွင်းသော အယူဝါဒ အား တည့်မတ်ပေးကာ ကိုယ်တော်မြတ် ﷺက "မုချ အဗူဗက်ရ်သည် ငါ၏ သာသနာရေးအရ တော်စပ်သော ညီနောင် ဖြစ်သော်လည်း သူ၏သမီးမှာ ငါနှင့်နေကာပြုပိုင်သည်"ဟု ပြန်လည် ဖြေကြားခဲ့သည်။

سيرة السيدة عائشة أمّ المؤمنين –رضي الله عنها– سليمان الندوي (1424هـ)، (الطبعة الأولى)، دار القلم (دمشق):، صفحة 54-55. بتصرّف.

ဤသို့ဖြင့် အထက်ပါ မှားယွင်းလှစွာသော အယူဝါဒမှာ ထာဝရ ဖျက်သိမ်းခြင်းခံလိုက်ရသည်။

## (၅) ကရုဏာပြယုဂ် ဖော်ထုတ်ပြသရန်အတွက်

မြင့်မြတ်တော်မူသော အရှင်မြတ်သည် မိမိ၏အချစ်တော် နဗီ တမန်တော်မြတ်ﷺနှင့်ပတ်သက်ပြီး ကျမ်းမြတ်ကုရ်အာန်တွင် အောက် ပါအတိုင်း ချီးမွမ်းထားတော်မူသည်။

"ဧကန်မလွဲ အသင်တို့အနက်မှပင် ရစူလ်တမန်တော်တစ်ပါး သည် အသင်တို့ထံ ရောက်ရှိ လာခဲ့ချေပြီ။ အသင်တို့ တွေ့ကြုံရသော ဒုက္ခသည် ထိုရစူလ်တမန်တော်၏ အပေါ်၌ အလွန်ဝန်လေးလှသည်။ (၎င်းပြင် ထိုရစူလ်တမန်တော်သည်) အသင်တို့နှင့် ပတ်သက်၍ ကောင်း ရာ ကောင်းကြောင်းများကိုသာ အာသာဆန္ဒပြင်းပြစွာ တက်မက်သူဖြစ် ၏။ ထို့အတူ မုအ်မင်န် သက်ဝင် ယုံကြည်သူတို့နှင့်ပတ် သက်၍ အလွန် တရာနူးညံ့သိမ်မွေ့သူ၊ အလွန်တရာ သနားကြင်နာသူ တစ်ဦးလည်းဖြစ် ချေသည်။"

((၉)စူရဟ် သောင်ဝ်ဗဟ်၊ အာယသ် (၁၂၈))

ကိုယ်တော်မြတ် ﷺသည် ကရုဏာရှင်ဖြစ်သည့် အလျောက် ကိုယ်တော်မြတ်ﷺ၏ ပြုမူဆောင်ရွက်ချက် ဟူဟူသရွေ့တို့သည်လည်း ကရုဏာအပေါ်ခြေခံသည်။

ကိုယ်တော်မြတ် ﷺ၏ ထိမ်းမြားမှုအများစုသည်လည်း ကရုဏာပြယုဂ် ဖော်ထုတ်ပြသရန်သာဖြစ်ကြောင်း အောက်ပါ အကြောင်းအရာများက သက်သေထူနေပါသည်။

သာသနာတော်ကို လက်ခံခဲ့သည့်အတွက် အချို့သောအမျိုးသမီးတို့မှာ ဒုက္ခမျိုးစုံခံခဲ့ရသည်။ ကူကယ်ရာမဲ့ဘဝသို့ ရောက်ရှိခဲ့ရသည့်သတ္တိခဲ မွတ်စ်လင်မ်အမျိုးသမီးများလည်း ရှိပါသည်။

ထိုသို့ ကူကယ်ရာမဲ့ အခြေအနေသို့ ရောက်ရှိနေသော အမျိုးသမီးအချို့ကို ကိုယ်တော်မြတ် ﷺ က စာနာထောက်ထားပြီး ဖေးမကူညီပေးခဲ့သည်။

❍ မိခင်မွန် စောင်ဝ်ဒဟ်(ရ)သည် ကနဦးပိုင်းတွင်ပင် အစ္စလာမ်လက်ခံခဲ့သည့်အမျိုးသမီးတစ်ဦးဖြစ်သည်။ သက်တော်(၅၀)တွင် မုဆိုးမဖြစ်သွားခဲ့သည်။ ကျောက်ထောက်နောက်ခံလည်းမရှိ။ ခါးသီးသောနေ့ရက်များကို ဖြတ်ကျော်နေစဉ် ကိုယ်တော်မြတ် ﷺက သခင်မအား ထိမ်းမြားပြီး သခင်မအဖို့ သာယာလှပသော ဘဝတစ်ခု ထူထောင်ပေးခဲ့သည်။ **ဤသည် ကရုဏာပြယုဂ်ပင် မဟုတ်ပါလော့...။**

❍ ဟဖ်ဆွာ (ရ) သခင်မကြီး ငယ်ရွယ်စဉ်မှာပင် ခင်ပွန်းကွယ်လွန်သွားခဲ့သည်။ ဖခင်ဖြစ်သူ အိုမရ်(ရ)နှင့်မိခင်တို့မှာ သခင်မအတွက်ဘဝကြင်ဖက်ကို စဉ်ဆက်မပြတ်ရှာဖွေခဲ့သည်။ အဆင် မပြေသည့်အဆုံး နှစ်ဘဝကရုဏာရှင် ကိုယ်တော်သခင်(ရ)အား တင်ပြရာ

ကိုယ်တော်သခင် ﷺ က မိမိ၏ကြင်ယာမြောက်ပေးပြီး မိဘနှစ်ပါး၏ သောကမီးများကို ငြိမ်းအေးစေခဲ့သည်။

❍ အွမ်မေ့စလမဟ် ؓသခင်မကြီးသည်လည်း အစ္စလာမ် လက်ခံပြီးနောက် အသဲကွဲဖြစ်ရပ်ဆိုးများဖြင့် ကြုံဆုံခဲ့ရသည်။ ရင်နှင့် သီးခြာအသဲမွှာဖြစ်သော သမီးငယ်လေးနှင့် ခွဲခြင်းခံခဲ့ရသည်။ ရုတ်တ ရက် ခင်ပွန်းသည် ကွယ်လွန်သွားခဲ့သည်။ သားသမီး(၄)ဦးကျန်ရစ်နေ သည်။ ၎င်းတို့ကို ပြုစုပျိုးထောင်ရန် လောကီအကြောင်းခံ အလုံအ လောက်မရှိခဲ့။

ဒုက္ခပင်လယ်တွင်း သက်ဆင်းနေခဲ့ရသော သခင်မကြီးကို ချစ်နဗီ ﷺက မိမိကြင်ယာ အဖြစ်ကမ်းလှမ်းပြီး ဖေးမကူညီပေးခဲ့သည်။

❍ မိခင်မွန်အွမ်မေ့ဟာဘီဘဟ် ؓသည် အဗူစွဖ်ယားန်၏အသဲ ခိုက်အောင်ပင် ချစ်မြတ်နိုးရသည့် သမီးဖြစ်သည်။ အစ္စလာမ် သာသနာ တော်ကို လက်ခံလိုက်သည့်အတွက်ကြောင့် အမျိုးမျိုးသော ဒုက္ခကိုခံခဲ့ ရသည်။ အဆုံးတွင် ဟဗ်ရှာ (အီသီယိုးပီးယားနိုင်ငံ)သို့ ခင်ပွန်းသည်နှင့် အတူ ဟိဂ်ျရသ်ပြု(ပြောင်းရွှေ့သွားခဲ့သည်။) ထိုနိုင်ငံတွင် ခင်ပွန်းသည် မှာ မုရ်သဒ်(သာသနာစွန့်ခွာ)သူ ဖြစ်သွားခဲ့ပြီး အရက် သေစာများ အလွန်အကျွံသောက်စားရင်း သေသွားခဲ့သည်။ တိုင်းတစ်ပါးတွင် နေ ထိုင်စဉ် မုဆိုးမဖြစ်သွားရသည့် မိခင်မွန်မှာ မည်မျှပင် အားငယ်နေမည် နည်း။ ထိုစဉ် ချစ်နဗီ ﷺ က ကြင်ယာတော်အဖြစ် လက်ခံပေးလိုက်ခြင်း မှာလည်း နဗီ့ကရုဏာပြယုဂ် တစ်ခုပင် မဟုတ်ပါ လော့....။

❍ မိခင်မွန် ဇိုင်နပ်ဗင်န်သေ့ခိုင်ဇိုင်မဟ် ﷺ၏ ခင်ပွန်းသည်မှာလည်း အရှင်မြတ်လမ်းတော်တွင်ပင် အသက်စတေးသွားခဲ့သည်။ ထိုစဉ်အခါ သခင်မ၏ ခြောက်သွေ့နေသော ဘဝပန်းခင်းသည် နဗီ့ ကရုဏာလွှမ်း၍ လန်းခဲ့ရသည်။

အချုပ်ဆိုရသော် ကိုယ်တော်မြတ် ﷺသည် ကြင်ယာတော်အများအပြားနှင့် လက်ဆက်ခဲ့ရသည့်အကြောင်းတရားများ၊ လျှို့ဝှက်ချက်များရှိနေသည့်အနက် ကရုဏာ ပြယုဂ်ဖော်ထုတ်ပြသခြင်းဟူ သောအကြောင်းကိုလည်း ငြင်းမရနိုင်ပါ။

**ဗဟီမြေပေါ် လူတော် လူကျော် ထွန်းကားပေါ်လည်း**

**တခွင်ကမ္ဘာ ကရုဏာပွားသူ မရှိပါဘိတကား....။**

## (၆) ပတ်ဝန်းကျင်ထူထောင်ရေးအတွက်

ကိုယ်တော်မြတ် ﷺသည် ခိုင်မာသော အစ္စလာမ့် ပတ်ဝန်းကျင် တစ်ခုတည်ထောင်ရေးတွင် အားဖြည့်နိုင်ရန်လက်ဆက်ခဲ့ခြင်းမျိုးလည်း ရှိပါသည်။

မိမိ၏ ပထမဆုံး ခလီဖွာကြီးဖြစ်သည့် အဗူဗက်ရ် ؓ၏သမီး တော် အာအေရှာ ؓနှင့် အိမ်ထောင်ပြုခဲ့သည်။ ထို့နောက် ခလီဖွာ ကြီးဖြစ်သည့် အိုမရ် ؓ၏ သမီးတော် ဟဖ်ဆွာ ؓနှင့် အိမ်ထောင်ပြု ခဲ့သည်။ ဤကဲ့သို့ ထိမ်းမြားလိုက်ခြင်းကြောင့် ကိုရိုင်ရှ်မျိုးနွယ်ဝင် မျိုးနွယ်စုများကြား အချစ်တရားများ တိုးပွားခဲ့ရသည်။ ကိုယ်တော် သခင် ﷺ ၏ ကြိုးပမ်းမှုများကိုလည်း အားလုံးက ခမ်းနားစွာ ကြိုဆိုခဲ့ ကြသည်။

အဗူဗက်ရ် ؓ သည်ကိုယ်တော်မြတ် ﷺနှင့်အတူ အစ္စလာမ့် အတွက်များစွာ ပေးဆပ်ခဲ့သည်။ ကျေးဇူးများပြုခဲ့သည်။ ကိုယ်တော် သခင် ﷺ က "အဗူဗက်ရ် ပြုခဲ့သော ကျေးဇူးများကို လောကတွင် ပြန်ဆပ်ပေးရန် မဖြစ်နိုင်ပါ"ဟု မိန့်ကြားခဲ့သည်။ ထိုကျေးဇူးများကို တုန့်ပြန်သော အားဖြင့် သမီးတော်နှင့် လက်ဆက်ပေးခဲ့ခြင်းဟုလည်း နားလည်သဘောပေါက်နိုင်ပါသည်။

အိုမရ် ؓ ပေးဆပ်ခဲ့သည့် ကျေးဇူးတရားများ၊ စတေးမှုများ သည်လည်း သမိုင်းဝင် ဖြစ်ပါသည်။ ထိုသမိုင်းဝင်ပေးဆပ်ခဲ့မှုများ

အတွက် သမီးတော်နှင့် နေကာပြုပြီးနောက် ခိုင်မာသော ပတ်ဝန်းကျင် တစ်ရပ် ထူထောင်နိုင်ခဲ့သည် မဟုတ်ပါလော....။

တတိယခလီဖ္ဖာကြီး ဖြစ်သော အွတ်ဆ်မားန် ﷺ ကို မိမိ၏ သမီးတော်နှစ်ပါး(တစ်ပါးဆုံးသဖြင့်ဒုတိယတစ်ပါး)ဖြင့် လက်ဆက်ပေး ခြင်း၊ စတုတ္ထခလီဖ္ဖာကြီးဖြစ်သော အလီ ﷺကို မိမိ၏ အချစ်ဆုံး သမီးတော် ဖွာသွေ့မဟ် ﷺနှင့် လက်ဆက်ပေးခြင်းတို့မှာလည်း ခိုင်မာ ကျစ်လျစ်သောပတ်ဝန်းကျင် တစ်ခုတည်ထောင်ရာတွင် အရေးပါလှ သော အချက်ဖြစ်ပါသည်။

## (၇) နိုင်ငံရေးအကျိုးတရားများအတွက်

အချို့သော မိခင်မွန်တို့နှင့် လက်ဆက်ရာတွင် ကိုယ်တော်မြတ် ﷺသည် နိုင်ငံရေး အကျိုးတရားများကို ရှေ့ရှုခဲ့သည်။ ယဟူဒီမျိုးနွယ် (ဗနူမွတ်စ်သလက်)ခေါင်းဆောင် ဟာရိဆ်၏ သမီး တော် ဂျိုဝိုင်ရိယဟ် ﷺနှင့် လက်ဆက်ခဲ့သည်။

သခင်မမျိုးနွယ်မှ မွတ်စ်လင်မ်တို့လက်ဝယ် အိမ်ခြေ(၁၀၀) ကျော် သုံ့ပမ်းအဖြစ် ဖမ်းဆီးခံထားရပြီးနောက် မွတ်စ်လင်မ်တို့က “ဒို့နဗီရဲ့ ဆွေမျိုးတွေ ငါတို့လက်ဝယ် ဖမ်းဆီးခံထားရသလား။ သူတို့ ဟာ ဒို့မိခင်မွန်ရဲ့ ဆွေးမျိုးတွေပဲမဟုတ်လား”ဟု ဆိုကာ လွှတ်ပေး လိုက်ကြသည်။ ဤပြုမူဆောင်ရွက်ချက်၏ မင်္ဂလာကြောင့် သခင်မကြီး ၏မျိုးနွယ်မှ များစွာသော သူတို့မှာ သူကောင်းပြုခံရပြီးနောက် အစ္စလာမ်လက်ခံလာခဲ့သည်။

ယခုဆက်လက်ပြီး မိခင်မွန်တစ်ပါးတိုင်း၏ အတ္ထုပ္ပတ္တိ အကျဉ်းကို သခင်မကြီးတို့၏ ဘဝမှ ရရှိသော သင်ခန်းစာများနှင့်တကွ ရေးသားဖော်ပြပါမည်။

## (၁) မိခင်မွန် ခဒီဂျာ ဘင်န်သေ့ ခိုဝိုင်လိဒ် رَضِيَ اللَّهُ عَنْهَا

**خديجة بنب خويلد بن أسد بن عبد العزى بن قصي** رَضِيَ اللَّهُ عَنْهَا

📖 **ဗဟီမြေပေါ်တွင် ကိုယ်တော်မြတ်** ﷺ ကို ပထမဆုံးထောက်ခံကာ အီမာန်ယူခဲ့သည့် စံပြ မိခင်မွန်ကြီး။

📖 သခင်မကြီးသည် ရေရှည်ကို တွေးမြင်နိုင်သည့် အရည်းအချင်းရှင်မ၊ အမြင်ကျယ်သူမ၊ သာသနာအတွက် ပေးဆပ်ရဲသူမ၊ ကိုယ်တော့်အတွက်အတွက် ပေးဆပ်ရဲသည့် သတ္တိခဲ မိခင်ကြီး။

📖 ကမ္ဘာတည်သရွေ့ မွတ်စ်လင်မ်အမျိုးသမီးများအတွက် စံနမူနာကောင်းများ ချန်ထားခဲ့ သည့် ချစ်မိခင်....

## ၁။ မိခင်မွန် ခဒီဂျာ ဘင်န်သေ့ ခိုဝိုင်လိဒ် رَضِيَ اللَّهُ عَنْهَا

### (၁) အတ္ထုပ္ပတ္တိအကျဉ်း

အမည် - ခဒီဂျာ ဗင်န်သေ့ ခိုဝိုင်လိဒ် رَضِيَ اللَّهُ عَنْهَا

မျိုးရိုးစဉ်ဆက် -

خديجة بنت خويلد بن أسد بن عبد
العزى بن قصي بن كلاب بن مرة بن كعب بن لؤي بن غالب بن
فهر بن مالك بن النضر وهو قريش بن كنانة
ابن خزيمة بن مدركة بن إلياس بن مضر بن نزار بن معد بن عدنان،يلتقي نسبها
بنسب الرسول ﷺ في قصي بن كلاب.

ဂုဏ်ထူးဆောင်အမည်- အွမ်မုလ်ကာစင်မ်

ဘွဲ့ထူး - မုအ်မင်န်တို့၏ မိခင်မွန်

ဖခင် - ခိုဝိုင်လိဒ်ဗင်န် အစဒ်

မိခင် - ဖွာသွေ့မဟ်ဗင်န်သေ့ ဇာအေ့ဒဟ်ဗင်န် အလ်အစွမ်

မွေးချင်းမောင်နှမများ - (၉)ဦး

သားသမီး - ကိုယ်တော်မြတ် ﷺ နှင့် သားတော်(၂)ပါး
(အလ်ကာစင်မ်နှင့် အဗ်ဒုလ္လာဟ်)၊ သမီးတော်(၄)ပါး

(ဇိုင်နပ်၊အွမ်မေ့ကုလ်ဆူးမ်၊ရိုကိုင်ယဟ်၊ ဖွာသွေ့မဟ် رَضِيَ اللهُ عَنْهُنَّ တို့ ထွန်းကားခဲ့သည်။

ဖွားမြင်ခြင်း - ဟစ်ဂျ်ရည်မတိုင်မီ(၆၈)နှစ် = (ခရစ်နှစ် ၅၅၆)ခု

ဖွားမြင်သည့်နေရာ - မက္ကာရွှေမြို့တော်

ကွယ်လွန်တော်မူခြင်း - သက်တော် (၆၅)နှစ်၊ ဟစ်ဂျ်ရည် မတိုင်မီ (၃)နှစ် = ခရစ်နှစ်(၆၁၉)ခု။

ကွယ်လွန်သည့် နေရာ - မက္ကာဟ်ရွှေမြို့တော်

မြှုပ်နှံခြင်း - ဂျန္နသုလ် မအ်လာ (ဟဂျူးန်)

ကိုယ်တော်မြတ် ﷺ နှင့် အတူ နေထိုင်ခွင့် - (၂၄နှစ်၆လ)

ဆင့်ပြန်ခဲ့သည့် ဟဒီးဆ်တော်ပေါင်း - တစ်ပုဒ်

ခဒီဂျာ رَضِيَ اللهُ عَنْهَا သခင်မကြီးသည် မုအ်မင်တို့၏ မိခင်မွန်ဖြစ်သည်။ ကိုယ်တော်မြတ် ﷺ ၏ ပထမဆုံး ကြင်ယာတော်လည်း ဖြစ်သည်။ အိဗ်ရာဟီးမ် သခင်မှအပ ကိုယ်တော်မြတ် ﷺ၏သားတော်သမီးတော်အားလုံးသည် သခင်မကြီးထံမှ ထွန်းကားခဲ့ခြင်းဖြစ်သည်။

သခင်မကြီးသည် စီးပွား ဥစ္စာကြွယ်ဝချမ်းသာသည့် အမျိုးသမီးတစ်ဦးဖြစ်ပြီး၊ ကြီးကျယ်ခမ်းနားလှသည့် ကုန်ကူးသန်းရောင်းဝယ်ခြင်း၊ Import Export သွင်းကုန် ထုတ်ကုန်ဆိုင်ရာ လုပ်ငန်းကို အကြီးအကျယ်လုပ်ဆောင်သူမဖြစ်ခဲ့သည်။

သခင်မသည် မိမိ၏ အိန္ဒြေရှိခြင်း၊ သန့်ပြန့်စင်ကြယ်ခြင်းတို့ကြောင့် သွာဟေ့ရဟ် "သန့်စင်မေ"ဟူသော ဘွဲ့ထူးကိုရရှိခဲ့သည်။ ကိုယ်တော်မြတ် ﷺနှင့် အကျိုးတူ စီးပွားရေး လုပ်ဆောင်ခဲ့သည်။ ထို့နောက် ကိုယ်တော်မြတ်ﷺ ၏ လုပ်ရပ်ကိုင်ရည် သစ္စာသမာဓိရှိမှုတို့ကို မြင်တွေ့ပြီး သူမအနေဖြင့် ကိုယ်တော်မြတ် ﷺကို မိမိ၏ ဘဝကြင်ဖော်အဖြစ် ကမ်းလှမ်းခဲ့သည်။

ကိုယ်တော်မြတ်ﷺနှင့်အတူ ကိုယ်တော် နဗူဝသ်(နဗီဘွဲ့ထူးချီးမြှင့်ခြင်းမခံရမီ) (၁၅)နှစ်တာ ကာလနေထိုင်ခဲ့သည်။ သခင်မကြီးသည် ကိုယ်တော်မြတ် ﷺ အပါးတော်တွင် အေးအတူပူအမျှ ခံစားပေးခဲ့ပြီး ခက်ခဲသည့် ဘဝအချိုးအကွေ့တိုင်းတွင် ကိုယ်တော်မြတ် ﷺနှင့်အတူရှိပေးခဲ့သည်။ သခင်မ ပိုင်ဆိုင်သမျှကို အစ္စလာမ်သာသနာတော်ဖြန့်ချိရေးတွင် သုံးစွဲခဲ့သည်။

ကိုယ်တော်မြတ် ﷺနဗူဝသ်ချီးမြှင့်ခံရချိန် ဟေရာလှိုင်ဂူမှ အပြန် တုန်ရီနေခိုက် သူမကသာလျှင် အပါးတော်တွင်နေပြီး ဤသို့ဖြေသိမ့်ပေးခဲ့သည်။

"အရှင်မြတ်၏ ကစမ်၊ အလ္လာဟ်အရှင်မြတ် မောင်တော်ကို ဘယ်တော့မှ သေးသိမ်အောင် ပြုမှာမဟုတ်ပါဘူး။ မောင်တော်ဟာ ဆွေးမျိုးသားချင်းများကို ကောင်းမွန်စွာဆက်ဆံတယ်လေ။ မှန်သောစကားကိုပဲ ဆိုတယ်။ အပ်နှံပစ္စည်းတွေကို သစ္စာရှိရှိထိန်းသိမ်းပေးပါတယ်။ ကူကယ်ရာမဲ့ သူတွေရဲ့ ဝန်တွေကို ထမ်းရွက်ပေးတယ်။ ဧည့်ဝတ်ကလည်း ကျေသေးတယ်။ ကောင်းမှုကောင်းရာ ဆောင်ရွက်ရာမှာ

ပါဝင်ပါတယ်။ မောင်တော်ရဲ့ကိုယ်ကျင့်တရားတွေဟာ မွန်မြတ်လွန်း လှပါတယ်။”

ဤမျှမွန်မြတ်လှစွာသော ရွှေစကားများသည် မိခင်မွန်ကြီး၏ စင်ကြယ်သော အတွေးအခေါ်၊ ဖြူစင်သောကိုယ်ကျင့်သီလ၊ သန့်ပြန့်သောစိတ်နေသဘောထားတို့အတွက် သက်သေပြသရန် လုံလောက်ပါသည်။

ဤသို့သော သစ္စာစကားများကို ပြည့်ဝသော ယုံကြည်ချက်ရှင်သာလျှင် ပြောဆိုနိုင်မည်။ ကိုယ်တော်မြတ် ﷺနှင့်ပတ်သက်သည့် ယုံကြည်ချက်၊ ကိုယ်တော့်အပေါ်ထားရှိသည့် ပြည့်ဝသောသဘောထားများသည် နက်ရှိုင်းသော နှလုံးသားတွင်း သက်ဆင်းပြီးဖြစ်သည်။

ဤကြီးကျယ်မြင့်မြတ်လှသည့် မိခင်မွန်ကြီးသည် မိမိ၏သန့်ပြန့်စင်ကြယ်သော ကိုယ်ကျင့်တရား၊ မြင့်မားလှသည့် ဇွဲသတ္တိ၊ သူမတူသောခံယူချက်များဖြင့် ကမ္ဘာတည်သရွေ့ ထွန်းကားလာမည့် အစ္စလာမ့်အမျိုးသမီးများကို ဂုဏ်တင့်၊ သိက္ခာမြင့်စေခဲ့ပါသည်။

**အစ္စလာမ့်သမီးပျိုတိုင်း ဤမိခင်မွန်ခြင်း၏ နောက်လိုက်များဖြစ်ရသည့်အပေါ် ဦးမော့လျက် ကျွန်မတို့သည် မိခင်ခဒီဂျာ၏ သာသနာ့သမီးငယ်များ ဖြစ်ကြသည်ဟူ၍ ဂုဏ်ယူမဆုံး ဖြစ်လိုက်ပါစေ သား.....။**

သခင်မသည် ကိုယ်တော်မြတ် ﷺ အပေါ် ပထမဆုံး အီမာန်ယူခဲ့သည့် အမျိုးသမီးဖြစ်ကြောင်း၊ နမားဇ်၏အမိန့်တော် ကျရောက်

သောအခါ ကိုယ်တော်နှင့်အတူ ပထမဆုံးဝိုဇူပြုကာ နမားဇ် ဝတ်ပြုခဲ့သည့် အမျိုးသမီးဖြစ်ကြောင်း မော်ကွန်းဝင်ခဲ့သည်။

ကိုယ်တော်မြတ် ﷺ နဗီဖြစ်ပြီးနောက်ပိုင်း ကိုရိုင်းရှ်တို့ပေးသော ဒုက္ခများကို ခါးစည်းခံခဲ့သည်။ အဗူသွာလိဗ်လျှိုမြောက်ထဲတွင် (၃)နှစ်တိုင်တိုင် ပိတ်ဆို့ခံခဲ့ရသည်။ အစာရေစာ အဖြတ်ခံခဲ့ရသည်။

ဤလျှိုမြောင်ထဲမှ ထွက်လာပြီးနောက် မကြာမီပင် သခင်မကြီးသည် နာမကျန်းဖြစ်ခဲ့သည်။ ဘကြီးတော် အဗူသွာလိဗ်ကွယ်လွန်ပြီး ရက်အချို့တွင် သခင်မကြီးလည်း ကွယ်လွန်တော်မူခဲ့သည်။

ကိုယ်တော်မြတ် ﷺ က "လောကရှိအမျိုးသမီးထုကြီးတွင် (၄)ဦးသည် အမြတ်ဆုံးဖြစ်သည်။ သူမတို့မှာ-

(၁) မရ်ယမ် သခင်မ (၂) အာစိယဟ်သခင်မ

(၃)ခဒီဂျာသခင်မ (၄)ဖွာသွေ့မဟ်သခင်မတို့ဖြစ်သည်။"

ဟု မိန့်ကြားခဲ့သည်။

## မိခင်မွန် ခဒီဂျာ رَضِيَ اللّٰهُ عَنْهَا ၏အတ္ထုပ္ပတ္တိအကျယ်

### မိသားစုအခြေအနေ

မိခင်မွန် ခဒီဂျာ ﷺသည် ခိုဝိုင်လိဒ်၏ သမီးဖြစ်သည်။ ကိုရိုင်ရှ် မျိုးနွယ်ဝင်တို့အနက် ဂုဏ်အရေရှိသော ဗနူအဆဒ်မျိုးစုမှ ဆင်းသက်လာသည်။ သခင်မကြီး၏ မိခင်မှာ ဖွာသေ့မဟ် ဗင်န်သေ့ ဇာအေ့ဒဟ် ဖြစ်သည်။

ကိုရိုက်ရှ်မျိုးနွယ်ဝင်တို့သည် တမန်တော်အစ္စမာအီးလ် ခေတ်ကတည်းက ရောင်းဝယ် ဖောက်ကားခြင်းကို မိမိတို့ အသက်မွေးဝမ်းကြောင်းအဖြစ် ပြုခဲ့ကြသည်။ ဤကိစ္စကို ပြည်တွင်း ပြည်ပတွင် ကျယ်ကျယ်ပြန့်ပြန့်ဆောင်ရွက်ခဲ့ကြသည်။

ခဒီဂျာသခင်မကြီး၏ ဖခင်ခိုဝိုင်လိဒ်သည်လည်း ကိုရိုင်ရှ်မျိုးနွယ်ဝင်တို့အနက် အလွန်ကြွယ်ဝချမ်းသာသော၊ သစ္စာသမာဓိရှိ သော၊ ကတိတည်ကြသော ကုန်သည်ကြီးတစ်ဦးဖြစ်ခဲ့သည်။ မိခင်မွန်ခဒီဂျာ သခင်မကြီးသည်လည်း ဖခင်ထံမှ သစ္စာသမာဓိရှိခြင်း၊ ကတိတည်ခြင်းတို့နှင့်အတူ ရောင်ဝယ်ဖောက်ကားခြင်းတို့ကို အမွေအဖြစ် ရရှိခဲ့သည်။

ကသာဒါး သခင်၏ အဆိုအရ ခဒီဂျာ သခင်မကြီးသည် ဦးစွာ ပထမ အသီးက်ဗင်န် အာအိဒ် မခ်ဇူမီနှင့်လက်ဆက်ခဲ့သည်။ သားသမီး မထွန်းကားခဲ့ပါ။ ထို့နောက် အဗူဟာလဟ် ဟင်န်ဒ်ဗင်န် နဗ္ဗားရှ် သမီမီနှင့် လက်ဆက်ခဲ့ရာ ဟင်န်ဒ်၊ဟာလဟ်၊သွာဟိရ်အမည်ရှိ သားသမီး

ရတနာသုံးပါး ထွန်းကားခဲ့သည်။ ထို့နောက် အဗူဟာလာလည်း ကွယ်လွန်သွားခဲ့သည်။

သခင်မကြီးသည် မိမိ၏ အိန္ဒြေရှိခြင်း၊ သန့်ပြန့်စင်ကြယ်ခြင်းတို့ကြောင့် သွာဟေ့ရဟ် "သန့်စင်မေ"ဟူသော ဘွဲ့ထူးကို ရရှိခဲ့သည်။

သခင်မကြီးသည် တာဝန်သိ၊ သစ္စာရှိပြီး၊ လုပ်ရည်ကိုင်ရည်ရှိသော၊ စာရိတ္တမွန်မြတ်သော ပုဂ္ဂိုလ်တစ်ဦးကို မိမိစီးပွားရေးကဏ္ဍအား ဦးစီးပေးရန် ရှာဖွေနေခဲ့သည်။

ထိုသို့ရှာဖွေနေခိုက် ကူးသန်းရောင်းဝယ်ရေးကဏ္ဍတွင် မိမိဘကြီးတော် အဗူသွာလိဗ်ကို ပါရမီဖြည့်ပေးနေသော လူငယ်တစ်ဦး အကြောင်းကို ကြားသိလိုက်ရသည်။ ထိုလူငယ်၏ လုပ်ရည်ကိုင်ရည်၊ သမာဓိရှိသော ဆောက်ရွက်ချက်များ၊ စာရိတ္တမွန်တို့၏ သင်းရနံ့များသည်လည်း မက္ကာဟ်တစ်ခွင် ထုံသင်းလျှက်ရှိနေခဲ့ပါသည်။

အလ္လာဟ်မဟ် အိဗ်နေ့အဆီးရ် သခင်၏ "အလ်ကာမိလ်"ကျမ်းတွင်ရေးသားဖော်ပြချက်အရ ခဒီဂျာသခင်မကိုယ်တိုင် ကိုယ်တော်မြတ် ﷺ၏ လုပ်ရည်ကိုင်ရည်နှင့် သစ္စာသမာဓိကို သဘောကျကာ အကျိုးတူစီးပွားရေးလုပ်ငန်းလုပ်ဆောင်ရန် ကမ်းလှမ်းခဲ့သည်။

## ကိုယ်တော်သခင် ﷺ နှင့် စီးပွားရေးရှယ်ယာပြုလုပ်ခြင်း

ဤသို့ဖြင့် သခင်မကြီးသည် ကိုယ်တော်မြတ် ﷺကို ကုန်ပစ္စည်းများအပ်နှံကာ အကျိုးတူစီးပွားရေးလုပ်ငန်းကို စတင်လိုက်သည်။ ကိုယ်တော့်အား ပြုစုရန်အတွက် မိမိ၏ကျွန် မိုင်စရဟ်သခင်ကိုလည်း

ထည့်ပေးလိုက်သည်။ ကိုယ်တော်မြတ်ﷺကလည်း ခဒီဂျာသခင်မကြီး အတွက် နှစ်ဆမြတ်စွန်းစေရန် ကြိုးပမ်းပေးခဲ့သည်။

မက္ကာဟ်ရွှေမြို့တော်မှ ဆီးရီးယားနိုင်ငံတွင် ရောင်းချရန် ကုန်ပစ္စည်းများကို သယ်ဆောင်သွားခဲ့ပြီး မက္ကာဟ်ရွှေမြို့တော်တွင် ပြန်လည် ရောင်းချရန် ဆီးရီးယားနိုင်ငံထုတ် ကုန်ပစ္စည်းများကို သယ်ဆောင်လာခဲ့ပါသည်။ ဤသို့ဖြင့် နှစ်သီးစားသည့် သဘောဖြင့် မြတ်စွန်းခဲ့ခြင်းဖြစ်သည်။

## လက်ထပ်ထိမ်းမြားရန် ကမ်းလှမ်းခြင်း

အိမ်ဖ်နေ့စအဒ်၊ အိမ်ဖ်နေ့ဟော့ရှားမ်တို့၏ ဆင့်ပြန်ချက်များအရ သခင်မသည် ကိုယ်တော်မြတ်ﷺနှင့်ပတ်သက်ပြီး မိမိ၏သူငယ်ချင်း နဖီစာကို ပြောပြရာ နဖီစာကလည်း အသင်မအနေနှင့် ထိုလူငယ်ကို ကမ်းလှမ်းသင့်ကြောင်း အကြံပြုတိုက်တွန်းခဲ့သည်။

ထို့ကြောင့် သခင်မကြီးကိုယ်တိုင် “ အို..မောင်တော်၊ အသင်နှင့် ကျွန်မတို့ ဆွေမျိုးလည်း တော်စပ်ကြသည်။ အသင်၏ လုပ်ရည်ကိုင်ရည်၊ သစ္စာသမာဓိ၊ ကောင်းမွန်သော ကိုယ်ကျင့်တရားများ၊ ဆွေမျိုးဂုဏ်စသည်တို့ကို ကျွန်မ နှစ်သက်သောကြောင့် မောင်တော်နှင့်ထိမ်းမြားလိုကြောင်း သခင်မကြီးဘက်မှ ကမ်းလှမ်းခဲ့သည်။

ဤကမ်းလှမ်းချက်ကို လက်ခံသဘောတူပါလျှင် မိမိဦးရီးတော်များဖြစ်သည့်ဟာမ်ဇားသခင်၊ အဗူသွာလိဗ်သခင်တို့နှင့်အခြားသော

လူကြီးများကို ခေါ်ဆောင်ပြီး ဘယ်အချိန် လာရောက်ပါဟု သတင်းစကားပါးလိုက်သည်။

ကိုယ်တော်မြတ်ﷺကလည်း သခင်မ၏ကမ်းလှမ်းချက်ကို လက်ခံသဘောတူတော်မူပြီးနောက် ဦးရီးတော်များကို ခေါ်ဆောင်ကာ သတ်မှတ်ချိန်းဆိုထားသည့် အချိန်တွင် သခင်မကြီးဆီသို့ ကြွမြန်းသွားခဲ့သည်။ သခင်မကြီး၏ ဦးလေးအရင်းဖြစ်သူ အုမရ်ဗင်န်အစဒ်က နေကာဟ်တွင် သခင်မကြီး၏ ကိုယ်စားလှယ်အဖြစ် ဆောင်ရွက်ပြီး အဗူသွာလိဗ်က နေကာဖတ်ပေးခဲ့သည်။

ဆင့်ပြန်ချက်အများစုတွင် ကိုယ်တော်မြတ်ﷺက သခင်မကြီးကို မဟာရ်ခန်းဝင်ကြေးအဖြစ် ကုလားအုတ် အကောင် (၂ဝ) တင်ဆက်ခဲ့သည်။

အလ္လာဟ်မဟ်အိဗ်နေ့အဗ်ဒုလ်ဗရ်သခင်၏ အဆိုအရဤနေကာမင်္ဂလာအခမ်းအနားသည် ကိုယ်တော်မြတ်ﷺဆီးရီးယားက အပြန် (၂လ နှင့် ၂၅ရက်အကြာတွင်) ဖြစ်ခဲ့သည်။

## စီးပွားရေးနယ်ပယ်ချဲ့ထွင်ခြင်း

အေမာမ်ဇဟာဗီ၊အေမာမ် ဟာကင်မ်သခင်ကြီးတို့၏ အဆိုအရ ကိုယ်တော်မြတ်ﷺသည် ယီမင်နိုင်ငံ ဂျုရုရှ်သို့ ကုန်သွယ်ရေးခရီးအဖြစ်ကြွမြန်းခဲ့ကြောင်း၊ မွတ်စ်နဒ်အဟ်မဒ် ကျမ်းလာ အဆိုတစ်ခုအရ ဘာရိန်းနိုင်ငံသို့လည်း ကြွမြန်းခဲ့ကြောင်း သိရှိရသည်။

## ခဒီဂျာသခင်မကြီးနှင့် ပရဟိလုပ်ငန်းများ

သခင်မကြီးသည် ကိုယ်တော်မြတ်ﷺဆောင်ရွက်သော ပရဟိတ လုပ်ငန်းများ၊ လူသားအကျိုးပြုလုပ်ငန်းများအတွက် မိမိပိုင်ဆိုင်မှုများကို သုံးစွဲစေခဲ့သည်။

ကိုယ်တော်မြတ်ﷺ၏ နို့ထိန်းမိခင်မွန်ကြီး ဆိုဝိုင်ဗဟ် သခင်မသည် မိမိတို့ဒေသတွင် ကပ်ဘေးနှင့်ရင်ဆိုင်နေရသည့်အတွက် ကူညီပေးပါရန် ကိုယ်တော်မြတ်ﷺထံ လာရောက်တောင်းခံခဲ့ရာ ခဒီဂျာသခင်မကြီးက ဆိတ်အကောင်(၄၀)နှင့် ဝန်စီစလွယ်အပြည့် တင်ဆောင်ထားသည့် ကုလားအုပ်တစ်ကောင်ကို ချီးမြှင့်ခဲ့သည်။

အဗူလဟဗ်၏ကျွန်မဖြစ်သော ဆိုဝိုင်ဗဟ် သခင်မကြီးကလည်း ကိုယ်တော်မြတ်ﷺကို ရက်အချို့ နို့တိုက်ကျွေးခဲ့သည်။ ကိုယ်တော်မြတ်ﷺကလည်း သခင်မကြီးကို တလေးတစား ဆက်ဆံတော်မူခဲ့သည်။ ခဒီဂျာသခင်မကြီးက သူမကိုလည်း သူကောင်းပြုရန် ကြိုးစားခဲ့သေးသည် အဗူလဟဗ်က လက်မခံခဲ့ပါ။ နောက်ပိုင်းမှ သူကိုယ်တိုင် သူကောင်းပြုပေးခဲ့သည်။

## သခင်မ၏ ခင်ပွန်းသည်အား ဝတ်ကြီးဝတ်ငယ်ပြုခြင်း

ခဒီဂျာသခင်မသည် ဘဝတွင်အရာရာပြည့်စုံနေသော်လည်း ခင်ပွန်းသည်ဖြစ်သော မြတ်ကိုယ်တော်ﷺကို ကိုယ်တိုင်ကိုယ်ကျ ပြုစုခဲ့သည်။ ခင်ပွန်းသည် ပူဆွေးသောကဖြစ်လေတိုင်း အနီးကပ် ဖြေသိမ့်ခဲ့သည်။

ကိုယ်တော်မြတ်ﷺနဗီမဖြစ်မီ ဟေရာလိုင်ဂူထဲတွင် တရားအား ထုတ်ရန် ကြွမြန်းချိန် အစာရေစာများကို သခင်မကြီးကိုယ်တိုင် စီမံပေး တော်မူကြောင်း ဗိုခါရီကျမ်းမြတ်တွင် အတိအလင်းတွေ့ရှိရသည်။

## ဟေရာလိုင်ဂူကအပြန်

ကိုယ်တော်မြတ်ﷺ ဟေရာလိုင်ဂူမှပြန်လာချိန် တုန်တုန်ရီရီ ဖြစ်နေသော အခြေအနေတွင်လည်း သခင်မကြီးက အကောင်းဆုံးပုံစံ ဖြင့် ဖြေရှင်းပေးသနားတော်မူခဲ့သည်။ ကိုယ်တော်မြတ်ﷺက "ကျွန်ုပ် အသက်ကိုပင် စိုးရိမ်နေရသည်။ မကြုံဖူးတာကြုံခဲ့ရသည်"။ စသဖြင့် ပူဆွေးဝမ်းနည်းနေချိန် သခင်မကြီးက "အရှင်မြတ်၏ ကစမ်၊ အလ္လာဟ် အရှင်မြတ် မောင်တော်ကို ဘယ်တော့မှ သေးသိမ်အောင် ပြုမှာမဟုတ် ပါဘူး။ မောင်တော်ဟာ ဆွေးမျိုးသားချင်းများကို ကောင်းမွန်စွာ ဆက်ဆံတယ်လေ။ မှန်သောစကားကိုပဲ ဆိုတယ်။ အပ်နှံပစ္စည်းတွေကို သစ္စာရှိရှိထိန်းသိမ်းပေးပါတယ်။ ကူကယ်ရာမဲ့ သူတွေရဲ့ ဝန်တွေကို ထမ်းရွက်ပေးတယ်။ ဧည့်ဝတ်ကလည်း ကျေသေးတယ်။ ကောင်းမှု ကောင်းရာ ဆောင်ရွက်ရာမှာပါဝင်ပါတယ်။ မောင်တော်ရဲ့ ကိုယ်ကျင့် တရားတွေဟာ မွန်မြတ်လွန်းလှပါတယ်။"

ထို့နောက် မိမိ၏ မောင်နှမဝမ်းကွဲတော်စပ်သူ ပညာရှင်ကြီး ဝရကဟ်ဗင်န် နောင်ဖလ်ထံ ခေါ်ဆောင်သွားတော်မူခဲ့ပြီး အကြောင်းစုံ တင်ပြခဲ့သည်။ ဝရကဟ်ကလည်း ဤအဖြစ်အပျက်များသည် နဗီ တမန်တော်များသာ ကြုံကြိုက်ရကြောင်း၊ ကိုယ်တော်သည် နောက်ဆုံး နဗီဖြစ်ကြောင်း ကိုယ်တော့်ကို ကိုရိုင်းရှ်တို့ ဒုက္ခပေးချိန်၊ မောင်းထုတ်

ချိန် ကျွန်တော်မျိုးသာ သက်ရှိထင်ရှားရှိခဲ့လျှင် ကိုယ်တော့်ဘက်မှ မားမားမတ်မတ် ရပ်တည်ကာ ၎င်းတို့၏ အန္တရာယ်ရန်စွယ်ကို ကာကွယ်မည်ဖြစ်ကြောင်း ပြောကြားခဲ့သည်။”

## ပထမဆုံး အစ္စလာမ်လက်ခံခဲ့သည့် အမျိုးသမီး

သမိုင်းပညာရှင်တို့၏ တညီတညွတ်တည်း ဆုံးဖြတ်ချက်အရ မိခင်မွန် ခဒီဂျာ﵂သည် ပထမဆုံး အစ္စလာမ် လက်ခံခဲ့သည့် အမျိုးသမီးဖြစ်သည်။ သောင်ဝ်ဟီးဒ်တရားကို လက်ကိုင်ထားပြီး ကလိမဟ်ရှဟာဒသ်ကို ပထမဆုံး ရွတ်ဆိုခဲ့သည့် အမျိုးသမီးဖြစ်သည်။ အမျိုးသမီးထုကြီးအတွက် ဤမွန်မြတ်လှသည့်ဂုဏ်ကို ဆောင်ပေးခဲ့သည်။

ထို့နောက် ဒီးန်သာသနာဖြန့်ချိရေးတွင် ကိုယ်တော်မြတ်ﷺအား မိမိပိုင်ဆိုင်ထားသည့် အသက်၊ အိုးအိမ်၊ စည်းစိမ်တို့အား ပုံအောပေးပြီး စွမ်းစွမ်းတမံကြိုးပမ်းတော်မူခဲ့သည်။

## ပထမဆုံး နမားဇ်ဝတ်ပြုခဲ့သည့် အမျိုးသမီး

အေမာမ်အိဗ်နေ့မာဂျာ၊ အေမာမ်အဟ်မဒ်တို့က မိမိတို့ကျမ်းများတွင် ဇိုင်ဒ်ဗင်န် ဟာရေ့ဆဟ်﵁သခင်ထံမှ အောက်ဖော်ပြပါအကြောင်းအရာကို ဆင့်ပြန်ထားသည်။ “ သောဝ်ဟီးဒ် (တစ်ပါးတည်းသော အရှင်မြတ်အား ကိုးကွယ်ခြင်းနှင့် ရေ့စာလသ် (ရစူလ်တမန်တော်မြတ်အား)ယုံကြည်ခြင်းနောက် အစ္စလာမ်တွင် နမားဇ်ဝတ်ပြုခြင်းကိစ္စကိုသတ်မှတ်ပြဋ္ဌာန်းခဲ့သည်။ ပထမဆုံးဝဟီကျရောက်ပြီးနောက် ဂျိဗ်ရအီးလ်ကောင်းကင်တမန်တော်ကြီးက ကိုယ်တော်မြတ်ﷺကို နမားဇ်ဝတ်ပြုနည်း သင်ကြားပေးခဲ့သည်။ ကိုယ်တော်မြတ်ﷺကလည်း မိမိ၏

ကြင်ယာတော် ခဒီဂျာသခင်မကြီးကို ပြန်လည်ပြောပြရာ သခင်မကြီး လည်း ဤအေဗာဒသ်ကို နှစ်သက်သွားခဲ့သည်။ ကိုယ်တော်မြတ်ﷺက သခင်မကြီးကို ဝုဇူပြုလုပ်နည်း သင်ကြားပေးပြီးနောက် ဂျိဗ်ရအီးလ် သခင်သင်ကြားပေးခဲ့သည့်အတိုင်း နမားဇ်ကို သင်ကြားပေးခဲ့သည်။

ဟာဖိဇ် အိဗ်နေ့ အဗ်ဒုလ်ဗရ်ﷺဆင့်ပြန်ထားသည့် အကြောင်း အရာတစ်ခုကလည်း အထက်ပါ ဖြစ်ရပ်မှန်ကို အတည်ပြုပေးနေပါ သည်။

## အမျိုးသမီးထုကြီးအတွင်း သာသနာဖြန့်ချိရေး

ကိုယ်တော်မြတ်ﷺသည် အစပိုင်းတွင် သာသနာတော်ကို ဖုံးကွယ်လျက်သာ ဖြန့်ချိတော်မူခဲ့သည်။ ထိုအချိန်ကတည်းက မိခင်မွန် ခဒီဂျာသခင်မကြီးသည် ကိုယ်တော်မြတ်ﷺနှင့်အတူ သစ္စာရှိရှိ၊ အိန္ဒြေ သိက္ခာအပြည့်ဖြင့် အမျိုးသမီးထုအတွင်း ကြိုးပမ်းတော်မူခဲ့သည်။ အစ ကနဦးပိုင်းတွင် အစ္စလာမ်ဖြန့်ချိရေး၌ စွမ်းစွမ်းတမံကြိုးပမ်းခဲ့သည့် ဆွဟာဗာ (၁၃၃)ပါးရှိခဲ့သည်။ ၎င်းတို့အနက် (၂၇)ဦးမှာ ခဒီဂျာသခင်မ ဦးဆောင်သော အမျိုးသမီးများဖြစ်ခဲ့သည်။

ဤအမျိုးသမီးများအပြင် သခင်မကြီး၏ မျိုးနွယ် ဗနူအဆဒ်မှ ဇိုဗိုင်ရ်ဗင်န် အောက်ဝါးမ်၊ ခါလိဒ်ဗင်န် ဟော့ဇားမ်၊ အတ်စ်ဝဒ်ဗင်န် နောင်ဖလ်၊ အမ်ရ်ဗင်န် အိုမိုင်ယဟ် رَضِيَ ٱللَّٰهُ عَنْهُمْ တို့လည်း အစ္စလာမ် လက်ခံ ခဲ့ပါသည်။ ဤသည် သခင်မကြီး ကြိုးပမ်းခဲ့သည့် ရလဒ်ပင်ဖြစ်သည်။

## အနီးဆုံးဆွေမျိုးများအား ဖိတ်ခေါ်ခြင်း

ကိုယ်တော်မြတ်ﷺနဗီဝသ်ရရှိပြီး (၃)နှစ်အကြာတွင် ﴿وَأَنذِرۡ عَشِيرَتَكَ ٱلۡأَقۡرَبِينَ﴾ [الشعراء ٢١٤]"အသင်ကိုယ်တော်အနေဖြင့် အနီးဆုံးဆွေမျိုးသားချင်းများကို သတိပေးပါလေ" ဟူသော အာယသ်တော် ကျရောက်ခဲ့သည်။

ကိုယ်တော်မြတ်ﷺသည် အနီးဆုံး ဆွေမျိုး (၄၅)ဦးအား သခင်မကြီး၏ အိမ်တွင် ဖိတ်ခေါ် ကျွေးမွေးပြီးနောက် ဒီးန်သာသနာဘက်သို့ ဖိတ်ခေါ်ခဲ့ပါသည်။

ဤတွေ့ဆုံမှုအပြီးတွင် အီမာန်ရှင်များအပေါ် မတရားပြုမှုများ၊ ကိုယ်ထိလက်ရောက် စော်ကားခြင်းများ ပိုမိုများပြားသွားခဲ့သည်။ မတရားဖိနှိပ်မှုများ များလာသော်လည်း အစ္စလာမ် လက်ခံသူများမှာ ပိုမိုများပြားလာခဲ့သည်။

၎င်းတို့၏ အသက်၊ အီမာန်၊ အစ္စလာမ်ကို ထိန်းသိမ်းနိုင်ရန် အီသီယိုးပီးယားသို့ ဟဇ်ဂျ်ရသ်ပြုရန် အမိန့်တော်ရောက်ရှိလာသည်။ နောက်ဆုံးတွင် ကိုရိုင်ရှ်တို့က ဗနူဟာရှင်မ်နှင့်စီးပွားရေး၊ သာရေးနာရေးများ အဆက်ဖြတ်ရန် တညီတညွတ်တည်း ဆုံးဖြတ်ခဲ့ကြသည်။ ကိုယ်တော်မြတ်ﷺနှင့် မိသားစုဝင်တို့သည် အဗူသွာလိဗ်လျှိုမြောင်တွင် (၃)နှစ်တာ ပိတ်ဆို့ခံခဲ့ရသည်။

သခင်မကြီး၏ ဘဝသက်တမ်းတွင် အတောက်ပဆုံး အခန်းကဏ္ဍမှာ စွန့်လှူစတေးခြင်းဖြစ်သည်။ သာသနာတော်နှင့် ကိုယ်တော်

ﷺအတွက် မိမိ၏ အသက်၊ စည်းစိမ်၊ အိုးအိမ်၊ သိက္ခာ၊ စီးပွားရေး၊ အချိန် စသည်တို့ကို အိတ်သွန်ဖာမှောက် လှူဒါန်းပစ်ခဲ့သည်။

စီရည်ပညာရှင်တို့၏ အဆိုအရ သခင်မကြီး၏ လောကီသက်တမ်းနောက်ဆုံး (၇)နှစ်သည် မပြည့်စုံသည့် ဘဝနှင့်ကြုံခဲ့ရသည်။ ဤအချိန်များတွင် စီးပွားရေးလည်း တဖြည်းဖြည်း ကျဆင်းခဲ့ရပြီး စီးနင်းရန်ပင် အစီးအနင်းမရှိတော့သည့် အခြေအနေသို့ ရောက်ရှိသွားခဲ့သည်။

ဤပေးဆပ်မှုများအတွက်အစားအနေဖြင့် သခင်မသည် အရှင်မြတ်ဘက်တော်မှ စလာမ် ဆက်သခြင်းခံခဲ့ရသည်။ ဂျန္နသ်တွင် အပူအပင်သောကကင်းသော ပုလဲစံအိမ်တစ်ခုချီးမြှင့် မည်ဖြစ်ကြောင်း သတင်းကောင်းပေးခြင်းခံခဲ့ရသည်။

## သားသမီးတို့အား စနစ်တကျ ပြုစုပျိုးထောင်ပေးခြင်း

စီရည်ပညာရှင်များဖြစ်ကြသော အိဗ်နေ့အိစ္စဟာကာ်၊ အိဗ်နေ့ဟော့ရှာမ်နှင့်အခြားသော အေမာမ်ကြီးများ၏ တညီတညွတ်တည်း အဆိုအရ သခင်မထံမှ ကိုယ်တော်မြတ်ﷺအတွက် သားတော်နှစ်ပါး၊ သမီးတော် (၄) ပါးထွန်းကားခဲ့သည်။

သားတော်နှစ်ပါးမှာ ငယ်ရွယ်စဉ်မှာပင် ကွယ်လွန်သွားခဲ့ရပြီး သမီးတော်များကျန်ရှိနေခဲ့သည်။ သခင်မသည် ဤသမီးတော်(၄)ပါးကို ကောင်းမွန်ကျနစွာ ပြုစုပျိုးထောင်ပေးခဲ့သည်။

## ခဒီဂျာ رَضِيَ اللَّهُ عَنْهَا ၏ ဘဝမှာ သင်ခန်းစာများ

၁။ အမျိုးသမီးတို့အတွက် အကောင်းဆုံး စံနမူနာများ တည်ဆောက်နိုင်ခြင်း။

၂။ ဇနီးကောင်းပီသခြင်း။ ခင်ပွန်းကို အေးအတူပူအမျှ ခံစားပေးခြင်း။

၃။ အစ္စလာမ်အတွက် အကောင်းဆုံး ပေးဆပ်ခဲ့ခြင်း။

၄။ သာသနာတော်အတွက် ပိုင်ဆိုင်မှုအားလုံးကို သုံးစွဲခဲ့ခြင်း။

၅။ ကိစ္စရပ်တိုင်းကို အေးဆေးတည်ငြိမ်စွာ အသိဉာဏ်ရှေ့ထားပြီး ဆောက်ရွက်ဖြေရှင်းခြင်း။

ဤသင်ခန်းစာများအပြင် အခြားသော သင်ခန်းစာပေါင်းများစွာလည်း ရှိနေပါသည်။ ကေယာမသ်တိုင်ထွန်းကားလာမည့် မွတ်စ်လင်မ် အမျိုးသမီးတိုင်းကိုသခင်မကြီးက ဘဝရှုထောင်အစုံ၊ ကဏ္ဍအစုံတွင် ဦးဆောင်နေမည်ဖြစ်ပါသည်။

## (၂) မိခင်မွန် စောင်ဝ်ဒဟ် رَضِيَ اللهُ عَنْهَا နှင့် တဒဂ်

အမည် - စောင်ဝ်ဒဟ်ဗင်န်သေ့ ဇမ်အဟ် رَضِيَ اللهُ عَنْهَا

မျိုးရိုးစဉ်ဆက် -

هي: سَوْدَةُ بنت زَمَعَةَ بن قيس بن عبد شمس بن عبد وُدّ بن نصر بن مالك بن حِسْل – ويُقال حُسيل – بن امر ابن لُؤيّ، بن غالب بن فهر بن مالك بن النضر بن كنانة ابن خزيمة بن مدركة بن إلياس بن مضر بن نزار بن معد بن عدنان.

ဂုဏ်ထူးဆောင်အမည် - အွမ္မေ့ကာစင်မ်

ဘွဲ့ထူး - မုအ်မင်န်တို့၏ မိခင်မွန်

ဖခင် - ဇမ်အဟ်ဗင်န် ကိုင်စ်

မိခင် - ရှမ္မူးစ်ဗင်န်သေ့ကိုင်စ်ဗင်န်အမ်ရ်

မွေးချင်းမောင်နှမ - မာလိက်ဗင်န် ဇမ်အဟ် ၊ အဗ်ဒ်ဗင်န်ဇမ်အဟ်၊

ယခင်အိမ်ထောင်ဆက် - စက္ကရားန်ဗင်န် အမ်ရ်

သားသမီး - အဗ်ဒုလ္လာဟ်ဗင်န် စက္ကရားန် (စက္ကရားန်နှင့်ထွန်းကားသော သားတစ်ဦး)၊

ဖွားမြင်ခြင်း - ခရစ်နှစ် (၅၈၉)ခုနှစ်

ဖွားမြင်သည့်နေရာ - မက္ကာရွှေမြို့တော်

ကွယ်လွန်တော်မူခြင်း - မိုအာဝေယာ رَضِيَٱللَّهُعَنْهُ အုပ်ချုပ်စဉ်ကာလ (ဟစ်ဂျ်ရီ(၅၄)ခု။ ရှောင်ဝလ်လမြတ်=ခရစ်နှစ် (၆၇၄)ခု)၊ သက်တော် (၈၅)ခု

ကွယ်လွန်သည့် နေရာ - မဒီနာရွှေမြို့တော်

ဆင့်ပြန်ခဲ့သည့် ဟဒီးဆ်တော်ပေါင်း - (၅)ပုဒ်

ကိုယ်တော်မြတ် ﷺနှင့် နေထိုင်ခွင့်ရခဲ့သည့် ကာလ - (၁၃)နှစ်

## မိခင်မွန် စောင်ဝ်ဒဟ် رَضِيَ اللَّهُ عَنْهَا အကြောင်း (အကျယ်)

မိခင်မွန် စောင်ဝ်ဒဟ် رَضِيَ اللَّهُ عَنْهَا သည် ကိုရိုင်ရှ်မျိုးနွယ်ဝင်ဖြစ်သည်။ ကိုယ်တော်မြတ် ﷺ ၏ ဒုတိယမြောက် ကြင်ယာတော်လည်းဖြစ်သည်။ ကနဦးပိုင်းတွင်အစ္စလာမ်လက်ခံခဲ့သည်။ မက္ကာဟ်ရွှေမြို့တော်တွင် ဖွားမြင်ခဲ့သည်။

အစပိုင်းတွင် စက္ကရားန်ဗင်န်အမ်ရ်နှင့် လက်ဆက်ခဲ့ပြီး သားတစ်ပါးထွန်းကားခဲ့သည်။ ခင်ပွန်းသည်နှင့်အတူ ဟဗ်ရှာသို့ ဟစ်ဂျ်ရသ်ပြုခဲ့သည်။ သခင်မတို့ဇနီးမောင်နှံသည် မက္ကာဟ်သို့ ပြန်လာခဲ့သည်။ မဒီနာသို့ ဟစ်ဂျ်ရသ် မပြုမီ ခင်ပွန်းသည်ကွယ်လွန်သွားခဲ့သည်။

## ကိုယ်တော်မြတ် ﷺ နှင့် လက်ထပ်ထိမ်းမြားခြင်း

မိခင်မွန် ခဒီဂျာ رَضِيَ اللَّهُ عَنْهَا ကွယ်လွန်ပြီးနောက် ခေါင်ဝ်လ ဗင်န်သေ့ဟကီးမ် رَضِيَ اللَّهُ عَنْهَا သခင်မကြီး၏ တင်ပြချက်အရ ကိုယ်တော်မြတ် ﷺ သည် စောင်ဝ်ဒဟ်သခင်မနှင့် လမြတ်ရမ်ဇာန်၊ နဗဝီ (၁၀)ခုနှစ်= ဟစ်ဂျ်ရသ်မတိုင်မီ(၃)နှစ်= ခရစ်နှစ် (၆၂၀)တွင် ထိမ်းမြားခဲ့သည်။ ခဲအိုဖြစ်သူ ဟာသိဗ်ဗင်န်အမ်ရ်ကိုယ်တိုင်က ထိမ်းမြားပေးခဲ့သည်။ ထိုအချိန်သခင်မကြီး၏ သက်တော်မှာ (၅၅)နှစ်ဖြစ်သည်။

ကိုယ်တော်မြတ် ﷺ ၏ အမိန့်တော်အရ သခင်မကြီးသည် ဇိုင်ဒ်ဗင်န်ဟာရေ့ဆဟ် رَضِيَ اللَّهُ عَنْهُ၊ အဗူရာဖေ့အ် အလ်အန်ဆွာရီ رَضِيَ اللَّهُ عَنْهُတို့နှင့် အတူ မဒီနာရွှေမြို့တော်သို့ ဟစ်ဂျ်ရသ်ပြုခဲ့သည်။

သခင်မကြီးသည် ခိုင်ဗရ် ၊ ဟဂ်ျဂျသုလ်ဝဒါအ်တို့တွင် ပါဝင်ခွင့် ရခဲ့သည်။ ဤဟဂ်ျပြုလုပ်ပြီးနောက် ကွယ်လွန်သည်အထိ ဟဂ်ျမပြု တော့ဘဲ အိမ်တွင်သာ နေထိုင်ခဲ့သည်။

## သခင်မ၏ နှလုံးရည်မြင့်မြတ်မှုနှင့် ထွတ်မြတ်မှု

သခင်မသည် ရက်ရောသူမဖြစ်ခဲ့သည်။ အုမရ် رَضِيَ ٱللَّهُ عَنْهُ သခင်က ငွေဒင်္ဂါးတစ်အိတ် ချီးမြှင့်ခဲ့ရာ အားလုံးကို သူဆင်းရဲများအတွက် လှူဒါန်းပစ်ခဲ့သည်။

ကိုယ်တော်မြတ် ﷺ သည် သခင်မကြီးလက်ဆက်ပြီးနောက် အာအိရှာ رَضِيَ ٱللَّهُ عَنْهَا နှင့် လက်ဆက်ခဲ့သည်။ သခင်မကြီးက ကိုယ်တော် မြတ် ﷺ မိမိထံပါးတွင် အိပ်စက်ရမည့် ညအလှည့်အား အာအိရှာ သခင်မကို ချီးမြှင့်ခဲ့သည်။

သခင်မ၏ အကြောင်းခံဖြင့် ဟေဂျာ့ဗ်၏ အောက်ပါအမိန့်တော် ကျရောက်ခဲ့သည်။

﴿يَا أَيُّهَا النَّبِيُّ قُلْ لِأَزْوَاجِكَ وَبَنَاتِكَ وَنِسَاءِ الْمُؤْمِنِينَ يُدْنِينَ عَلَيْهِنَّ مِنْ جَلَابِيبِهِنَّ ذَلِكَ أَدْنَى أَنْ يُعْرَفْنَ فَلَا يُؤْذَيْنَ وَكَانَ اللَّهُ غَفُورًا رَحِيمًا﴾ سورة الأحزاب، الآية: **٥٩**

## မိခင်မွန် စောင်ဝ်ဒဟ် رَضِيَ ٱللَّٰهُ عَنْهَا ၏ ဘဝမှ သင်ခန်းစာများ

၁။ အစ္စလာမ်ကို ကနဦးလက်ခံပြီး အစ္စလာမ့်အတွက် ဒုက္ခအမျိုးမျိုးကို ခါးစည်းခံခြင်း။

၂။ ဘဝ၏ခါးသီးလှသော နေ့ရက်များကို သီးခံခြင်းဖြင့်ဖြတ်ကျော်ခြင်း။

၃။ လက်ရှိုးရည် နှလုံးရည်ဖြင့် ပြည့်ဝခြင်း။

၄။ သဘောထားကြီးခြင်း။

၅။ ကိုယ်တော်မြတ် ﷺ အချစ်ကြီးချစ်ခြင်း။

## (၃) မိခင်မွန် အာအေ့ရှာ رَضِيَ ٱللَّهُ عَنْهَا နှင့် တဒင်္ဂ

အမည် - အာအေ့ရှာ ဗင်န်သေ့အဗီဗက်ရ် رضي الله عنها

မျိုးရိုးစဉ်ဆက် -

عائشة بنت أبي بكر عبد الله بن أبي قحافة عثمان بن عامر بن عمرو بن كعب ابن سعد بن تيم بن مرة بن كعب ابن لؤي بن غالب بن فهر بن مالك بن النضر بن كنانة بن خزيمة بن مدركة ابن إلياس بن مضر بن نزار بن معد بن عدنان

ဂုဏ်ထူးဆောင်အမည်- အွမ္မေ့အဗ်အဗ်ဒိလ္လာဟ်

ဘွဲ့ထူး - မုအ်မင်န်တို့၏ မိခင်မွန်

ဖခင် - အဗူဗက်ရ်ဆွဒ္ဒီးက် رَضِيَ ٱللَّهُ عَنْهُ

မိခင် - အွမ္မေ့ရူမွာန် رَضِيَ ٱللَّهُ عَنْهَا

မွေးချင်းမောင်နှမ - အဗ်ဒုရ်ရဟ်မာန်၊ အဗ်ဒုလ္လာဟ်၊ မုဟမ္မဒ်။ အတ်စ်မာအ်၊ အွမ္မေ့ကူလ်ဆူးမ် رَضِيَ ٱللَّهُ عَنْهُمْ

ယခင်အိမ်ထောင်ဆက် - မရှိ

သားသမီး - မထွန်းကား

ဖွားမြင်ခြင်း - အေမာမ် အိဗ်နေ့ ဟဂျရ်၏ အဆိုအရ ဟစ်ဂျ်ရသ် မတိုင်မီ(၉)နှစ်၊ ခရစ်နှစ်(၆၁၄)

ဖွားမြင်သည့်နေရာ - မက္ကာရွှေမြို့တော်

ကွယ်လွန်တော်မူခြင်း - သက်တော် (၆၇)နှစ်၊ဟစ်ဂျ်ရီ(၅၇)ခု၊ လမြတ်ရမ်ဇာန်(၁၇)ရက်=ခရစ်နှစ်(၆၇၈)ခု၊ အင်္ဂါနေ့ည

ကွယ်လွန်သည့် နေရာ - မဒီနာရွှေမြို့တော် ၊ ဗကီးအ်ဲ သင်္ချိုင်းတော်တွင် မြှုတ်နှံခံရ။ အဗူဟိုရိုင်ရဟ် رَضِيَ ٱللَّٰهُ عَنْهُ သခင်က ဂျနာဇာနမားဇ်ဖတ်ပေးခဲ့သည်။

ဆင့်ပြန်ခဲ့သည့် ဟဒီးဆ်တော်ပေါင်း - (၂၂၁၀)ပုဒ်

ကိုယ်တော်မြတ် ﷺ နှင့် နေထိုင်ခွင့်ရခဲ့သည့် ကာလ - (၉)နှစ်

## မိခင်မွန် အာအေ့ရှာ ﵂ ၏တ္ထုပ္ပတ္တိအကျယ်

မိခင်မွန် အာအေ့ရှာ ﵂ သခင်မသည် ပထမခလီဖွာကြီး အဗူဗကၠရ် ﵁ သခင်၏ သမီးတော်ဖြစ်သည်။ ကိုယ်တော်မြတ် ﷺ ၏ တတိယမြောက် ကြင်ယာတော်လည်းဖြစ်သည်။ ကိုယ်တော်မြတ် ﷺ၏ ကြင်ယာတော်များတွင် သခင်မတစ်ဦးတည်းသာ အပျိုစင်ဖြစ်သည်။ ခေါင်ဝ်လာဗင်န်သေ့ ဟာကီးမ် ﵂သခင်မကြီး၏ တင်ပြအကြံပြုချက်အရ ကိုယ်တော်မြတ် ﷺက သခင်မအား ကမ်းလှမ်းခဲ့သည်။

ကိုယ်တော်မြတ်ﷺသည် သခင်မနှင့် သက်တော်(၅၀)နှစ်အရွယ်=နဗီဘွဲ့ထူးချီးမြှင့်ခံရပြီး (၁၀)နှစ်တွင် လက်ဆက်ခဲ့သည်။ မဒီနာရွှေမြို့တော်သို့ ကိုယ်တော်မြတ် ﷺ ဟစ်ဂျ်ရသ်ပြုပြီးနောက် မကြာမီပင် သခင်မကြီးသည် မောင်တော် အဗ်ဒုလ္လာဟ်၊ မိခင်အွမ္မေရူမ္မားန်၊ အစ်မတော် အတ်စ်မားအ်တို့နှင့်အတူ ဟစ်ဂျ်ရသ်ပြုခဲ့သည်။ ဗဒရ်စစ်ပွဲကအပြန် ဟစ်ဂျ်ရီ(၂)ခုနှစ်၊ရှောင်ဝလ် လမြတ်တွင် အခန်းအပ်ခဲ့သည်။

သခင်မကြီးသည် ကိုယ်တော်မြတ် ﷺ၏အပါးတော်တွင် နေထိုင်ပြီး သာသနာ့အမိန့်တော်ပေါင်းများစွာ၊ ဟဒီးဆ်တော်ပေါင်းများ စွာ၊ ကျမ်းမြတ်ကုရ်အာန်၏ သဖ်စီရ်ဖွင့်ဆိုချက်ပေါင်းများစွာတို့ကို ဆင့်ပြန်ပေးခဲ့သည်။

ထို့ကြောင့်ပင် အေမာမ်ဟာကင်မ် နိုင်စာပူရီ﵀ သခင်က မိမိ၏ မုစ်သဒ်ရတ်က်ကျမ်းတွင် "ရှရီအသ်တရားတော်မြတ်၏ လေးပုံတစ်ပုံ အမိန့်တော်များအား မိခင်မွန် အာအေ့ရှာ ﵂ သခင်မကြီးက ဆင့်ပြန်ပေးခဲ့သည်"ဟု ရေးသားဖော်ပြထားသည်။

ကိုယ်တော်မြတ်ﷺထံမှ ဟဒီးဆ်ထောင်ချီဆင့်ပြန်သည့် ဆွဟာဗီ(၇)ပါးသာရှိသည်။ ထို(၇)ပါးအနက် သခင်မကြီးတစ်ဦးတည်းသာ အမျိုးသမီးပါဝင်ခဲ့သည်။ သခင်မကြီးသည် ကိုယ်တော့်ထံမှ ဟဒီးဆ်တော်ပေါင်း (၂၂၁၀)ပုဒ်ဆင့်ပြန်ခဲ့သည့် စတုတ္ထမြောက် အများဆုံးဆင့်ပြန်သည့် ပုဂ္ဂိုလ်ဖြစ်သည်။

သခင်မကြီးသည် ကျမ်းမြတ်ကုရ်အာန် တစ်အုပ်လုံးကို အာဂုံဆောင်ထားသည့် ဟာဖွေ့ဇ္ဇာလည်း ဖြစ်သည်။

ထို့အတူ ကျမ်းမြတ်ကုရ်အာန်တစ်အုပ်လုံးကို စနစ်တကျ ဖွင့်ဆိုနိုင်သည့် မုဖစ္စိရဟ်၊ ဠာန်ကရိုဏ်းကျကျဖတ်ရွတ်နိုင်သည့် ကာရေ့အဟ်၊ ဓမ္မသတ်များကို စနစ်တကျပေးနိုင်သည့် မုဖ်သေ့ယဟ်ဖြစ်ပါသည်။

သခင်မသည် သာသနာတော်ကို ဂဃနဏနားလည် သဘောပေါက်သော သူမဖြစ်သည်။ အဗူမူစာ အရှ်အရီ رَضِيَ اللَّهُ عَنْهُက "သာသနာနှင့်ပတ်သက်ပြီး အခက်တစ်ခုကြုံလာလေတိုင်း ကျွန်ုပ်တို့ မိခင်မွန် အာအေ့ရှာ သခင်မထံ သွားရောက်လိုက်ပါက သဘောပေါက်နားလည်ပြီး အားလုံး အဆင်ပြေသွားခဲ့သည်" ဟု မိန့်ကြားခဲ့သည်။

အမွေကိစ္စများ၊ အမျိုးသမီးတို့နှင့်သက်ဆိုင်သည့် မတ်စ်အလဟ်များကို ကိုယ်တော်မြတ်ﷺသက်ရှိထင်ရှားရှိစဉ်ကပင် သခင်မက ဖြေရှင်းပေးလေ့ရှိသည်။

သခင်မ၏ အကြောင်းခံဖြင့် စူရဟ်မာအေ့ဒဟ်ရှိ သယမ်မွမ်၏ အမိန့်တော်၊ စူရဟ်နူးရ်ရှိ သိက္ခာရှိသောအမျိုးသမီးတို့အား စွပ်စွဲသူများ

ကို ကြိမ်ဒဏ်ပေးခြင်းနှင့်သက်ဆိုင်သည့် အာယသ်တော်များ ကျရောက်ခဲ့သည်။ အမိန့်တော်များကျရောက်ခဲ့သည်။

အထက်ပါအရည်အချင်းများအပြင် သခင်မသည် စကားကိုရှင်းလင်းပီသစွာ ပြောဆိုနိုင်သူမ၊ အာစလျှာစ ကောင်းသူမ၊ အာဝဇ္ဇာန်းကောင်းသူမ စကားအသုံးအနှုန်းအဖွဲ့ အနွဲ့ကောင်းသူမဖြစ်ကြောင်း အဟ်နဖ်ဗင်န်ကိုင်စ် သခင်က မှတ်ချက်ပြုခဲ့သည်။

သခင်မ၏သက်တော် (၁၈)နှစ်တွင် ကိုယ်တော်မြတ်ﷺ ကွယ်လွန်တော်မူခဲ့သည်။

သခင်မကြီး၏ အကြောင်းခံဖြင့် အမျိုးသမီးတို့၏ အခွင့်အရေးများ၊ ၎င်းတို့၏ ရပိုင်ခွင့်များအတွက် စနစ်တကျ လမ်းညွှန်ချက်များ ရရှိခဲ့သည်။

အစ္စလာမ့်အိမ်ထောင်ရေးစနစ်၊ ဇနီးမောင်နှံတို့ကြား ထားရှိရမည့် တာဝန်ဝတ္တရားများ၊ မေတ္တာတရားများ၊ အချင်းချင်းနားလည်မှုများလည်း သင်ခန်းစာအဖြစ်ရရှိသည်။

သခင်မ၏ အတ္ထုပ္ပတ္တိ၊ သခင်မကြီး၏ သက်တမ်းသည် အမျိုးသမီးတို့အဖို့ ဂုဏ်ယူဖွယ်ရာဖြစ်ပြီး၊ ကေယာမသ်တိုင် ထွန်းကား ပေါက်ဖွားလာမည့် မွတ်စ်လင်မ်အမျိုးသမီးထုကြီးအတွက် များစွာသော စံနမူနာ အတုယူဖွယ်ရာများ ပေးနေသည်။

သခင်မသည် ကိုယ်တော့်အွမ္မသ်၏ စံပြမိခင်၊ စံပြဆရာသခင်၊ အမျိုးသမီးထုကြီးအတွက် ကျေးဇူးရှင်၊ ကိုယ်တော်မြတ်ﷺအချစ်ဆုံး

ကြင်ယာ၊ သခင်မကြီး၏ မှန်ကန်ကြောင်း၊ အပြစ်ကင်းစင်ကြောင်း မြတ်ကုရ်အာန်ကပင် သက်သေပေးထားသည့် မိခင်ပင်ဖြစ်သည်။

သခင်မ ကွယ်လွန်ချိန်တွင် မိခင်မွန်တို့အနက် အွမ္မေ့စလမဟ် رَضِيَ ٱللَّهُ عَنْهَا တစ်ဦးတည်းသာ သက်ရှိထင်ရှားကျန်ရှိတော့သည်။

အွမ္မေ့စလမဟ် رَضِيَ ٱللَّهُ عَنْهَا သခင်မက " အာအေ့ရှာ သခင်မသည် ကိုယ်တော်မြတ် ﷺ ၏ အချစ်ဆုံးကြင်ယာတော်ဖြစ်သောကြောင့် မုချ ဂျန္နသ်ရကို ရရှိမည်"ဟု မိန့်ကြားခဲ့သည်။ သခင်မကြီးကွယ်လွန်ချိန် မဒီနာမြို့သူ၊မြို့သားများ မည်မျှပူဆွေးဝမ်းနည်းခဲ့ပါသနည်းဟု မဒီနာသားတစ်ဦးအား မေးမြန်းရာ သခင်က "ကျွန်ုပ်တို့တို့မိခင် ကွယ်လွန်သည့်အတွက်ကြောင့် အင်မတန်မှကို အသဲကွဲမတတ် ကြေကွဲဝမ်းနည်းခဲ့ရပါသည်" ဟု ဖြေကြားခဲ့ပါသည်။

## မိခင်မွန် အာအေ့ရှာ رَضِيَ اللَّهُ عَنْهَا ၏ ဘဝမှာ သင်ခန်းစာများ

၁။ အရာအားလုံးထက် အလ္လာဟ်အရှင်မြတ်နှင့် ရစူလ်တမန်တော်မြတ်တို့အား ချစ်ခင်ခြင်း။

၂။ အရှင်မြတ်အပေါ် အပြည့်အဝ ယုံပုံအားကိုးခြင်း။

၃။ သာသနာ့ဖြန့်ချိရာတွင် အမျိုးသမီးတို့၏ ကြီးကျယ်ခမ်းနားလှသော ကဏ္ဍကို တည်ဆောက်ပြသခဲ့ခြင်း။

၄။ ဘဝ၏ ကဏ္ဍအစုံတွင် ဘက်စုံထူးချွန် ထက်မြက်ခြင်း။

၅။ ကိစ္စရပ်တိုင်းကို ဖြေရှင်းရာတွင် ရင့်ကျက်ခြင်း အနုပညာ။

၆။ အမှန်တရားကို ချစ်မြတ်နိုးပြီး အမှန်တရားအတွက် တိုက်ပွဲဝင်ခြင်း။

၇။ အမျိုးသမီးတို့ဘဝ၏ ကဏ္ဍအဝဝတွင် ဦးဆောင်မှုပေးနိုင်ခြင်း။

၈။ ဘဝကို အဓိပ္ပါယ်ရှိရှိ၊ အနှစ်သာရပါပါဖြတ်သန်းပြသခြင်း။

၉။ သခင်မကြီး၏ ဘဝဖြစ်စဉ်အရပ်ရပ်သည် အမျိုးသမီးတို့အတွက် စနမူယူဖွယ်ဖြစ်ခြင်း။

၁၀။ အရှင်မြတ်နှင့်ရစူလ်ကိုယ်တိုင် သခင်မကို ကျေနပ်နှစ်သက်ခြင်း။

## (၄) မိခင်မွန်ဟဖ်ဆွာဟ်ဗင်န်သေ့ အုမရ် رَضِيَ اللَّهُ عَنْهَا နှင့် တဒဂ်

## ကျမ်းမြတ်ကုရ်အာန် ထိန်းသိမ်းစောင့်ရှောက်ရေးနှင့် အစီအစဉ်တကျ မှတ်တမ်းတင်ခြင်းအတွက် မော်ကွန်းဝင် ကြိုးပမ်းမှုတစ်ခု ဆောင်ရွက်ခဲ့သော မိခင်မွန်

အမည် - ဟဖ်ဆွာဟ်ဗင်န်သေ့ အုမရ်ﷺ

မျိုးရိုးစဉ်ဆက် -

هي حفصة بنت عمر بن الخطاب بن نفيل بن عبد العزى بن رباح بن عبد الله بن قرط بن رزاح بن عدي ابن كعب بن لؤي بن غالب بن فهر بن مالك بن النضر بن كنانة بن خزيمة ابن مدركة بن إلياس بن مضر بن نزار بن معد بن عدنان العدوي القرشي.

ဘွဲ့ထူး - မုအ်မင်န်တို့၏ မိခင်မွန်

ဖခင် - ခလီဖွာကြီး အုမရ်ဗင်န်ခသ်သွာ့ဗ် رَضِيَ اللَّهُ عَنْهُ

မိခင် - ဇိုင်နဗ်ဗင်န်သေ့ မဇ်အူးန်

မွေးချင်းမောင်နှမ - အဗ်ဒုလ္လာဟ်၊ အဗ်ဒုရ်ရဟ်မားန်၊ အိုဗိုင်ဒွလ္လာဟ်၊ အာစွင်းမ်၊ ဇိုင်ဒ်(အကြီး၊ ဇိုင်ဒ်(အငယ်)၊ အဗူရှဟ်မာဟ် အဗ်ဒုရ် ရဟ်မာန် (အလ်အောင်ဝ်စသ့်)၊အဗ်ဒုရ်ရဟ်မာန်းန်(အလ်အဆွ်ဂရ်)၊အေယားသ့် رَضِيَ اللَّهُ عَنْهُمْ

အစ်ဒုလ္လာဟ်ဗင်န်အုမရ်သခင်နှင့်  အစ်ဒုရ်ရဟ်မားန်ဗင်န်အုမရ်رَضِيَ اللَّهُ عَنْهُمْ တို့သည် သခင်မကြီး၏ အဖေတူ၊အမေတူမောင်နှမများဖြစ်သည်။

ညီအစ်မများတွင် - ဖွာသေ့မဟ်၊ ရိုကိုင်ယဟ်၊ အာအေ့ရှာ၊ ဇိုင်နမ် رَضِيَ اللَّهُ عَنْهُنَّ အားလုံးသောမောင်နှမများတွင် သခင်မကြီးသည် သမီးဦးဖြစ်သည်။

ယခင်အိမ်ထောင်ဆက် - ခိုနိူက်စ်ဗင်န် ဟိုဇာဖဟ် စဟ်မီ رَضِيَ اللَّهُ عَنْهُ

ကိုယ်တော်မြတ် ﷺ နှင့် ထိမ်းမြားခြင်း - အိဗ်နေ့ ဇဗာလဟ်၏ အဆိုအရ ဟစ်ဂျ်ရီ(၃)ခုနှစ်၊ ရှအ်ဗာန်လ၊ သခင်မကြီး၏ သက်တော် (၂၀)ကျော်

သားသမီး - မထွန်းကားခဲ့

ဖွားမြင်ခြင်း - အေမာမ် ဇရ်ကလီ ၏ အဆိုအရ နဗူဝသ်ချီးမြှင့်ခြင်းမခံရမီ (၅)နှစ်=ဟစ်ဂျ်ရသ်မတိုင်မီ(၁၈)နှစ်= ခရစ်နှစ်(၆၀၅)ခုနှစ်၊

ဖွားမြင်သည့်နေရာ - မက္ကာရွှေမြို့တော်

ကွယ်လွန်တော်မူခြင်း - ဟစ်ဂျ်ရီ(၄၁)ခုနှစ်=ခရစ်နှစ် ၆၆၁)ခု။

ကွယ်လွန်သည့် နေရာ - မဒီနာရွှေမြို့တော်

ဆင့်ပြန်ခဲ့သည့် ဟဒီးဆ်တော်ပေါင်း - (၆၀)ပုဒ်

ကိုယ်တော်မြတ် ﷺ နှင့် နေထိုင်ခွင့်ရခဲ့သည့် ကာလ - (၇)နှစ်ခွဲ

## မိခင်မွန်ဟာဖ်ဆွာဟ်ဗင်န်သေ့ အုမရ် رَضِيَ ٱللَّهُ عَنْهَا၏အတ္ထုပ္ပတ္တိအကျယ်

မိခင်မွန် ဟာဖ်ဆွာ رَضِيَ ٱللَّهُ عَنْهَاသခင်မသည် ကိုယ်တော်မြတ်ﷺ၏ စတုတ္ထမြောက် ကြင်ယာတော်ဖြစ်သည်။ ကိုရိုင်ရှ်မျိုးနွယ်ဝင်၊ အဒီ အနွယ်မှဖြစ်သည်။

သခင်မဖွားမြင်ချိန် ကိုယ်တော်မြတ် ﷺ နဗီဘွဲ့ထူး ချီးမြှင့်မခံရမီ (၅)နှစ်မတိုင်မီ နှစ်သည် သမိုင်းတွင် အလွန်ပင်အရေးပါသော နှစ်ဖြစ်ခဲ့သည်။ ဤနှစ်တွင် ကိုရိုင်ရှ်မျိုးနွယ်ဝင်တို့က ကအ်ဗာဟ်ကျောင်းတော်ကို အသစ်တဖန် မွမ်းမံတည်ဆောက်ခဲ့သည်။ ကျောက်နက်တော်အား သူ့နေရာထားရေးအငြင်းပွားမှုကို ကိုယ်တော်မြတ်ﷺက ဖြေရှင်းပေးခဲ့သည့် နှစ်ဖြစ်သည်။

ဖခင်ဖြစ်သူ ခလီဖွာကြီး အုမရ် رَضِيَ ٱللَّهُ عَنْهُ သခင်နှင့်အတူ အစ္စလာမ်လက်ခံခဲ့သည်။ ထို့နောက် မိမိ၏ ပထမခင်ပွန်းဖြစ်သူ ခိုနိုက်စ်ဗင်န်ဟိုဇာဖာဟ်စဟ်မီ رَضِيَ ٱللَّهُ عَنْهُသခင်နှင့်အတူ မဒီနာရွှေမြို့တော်သို့ ဟစ်ဂျ်ရသ်ပြုခဲ့သည်။

ဗဒရ်စစ်ပွဲတွင် ခင်ပွန်းသည် ရှဟီးဒ်ဖြစ်သွားခဲ့သည်။ ထိုအခါ ဖခင်ကြီး အုမရ် رَضِيَ ٱللَّهُ عَنْهُသခင်က သမီးတော်အား ထိမ်းမြားပေးရန် ဦးစွာ အွတ်ဆ်မာန်းرَضِيَ ٱللَّهُ عَنْهُသခင်ကို ကမ်းလှမ်းခဲ့ရာ သခင်က “ ကျွန်တော် ဇနီး ကြင်ယာ မလိုအပ်သေးပါ” ဟု ပြန်လည်ဖြေကြားခဲ့သည်။ ထိုအခါ အဗူဗက်ရ်رَضِيَ ٱللَّهُ عَنْهُသခင်အား သမီးတော်နှင့် ထိမ်းမြားရန် ကမ်းလှမ်းခဲ့ပြန်သည်။ အဗူဗက်ရ်رَضِيَ ٱللَّهُ عَنْهُသခင်ကြီးက တစ်စုံတရာပြန်လည် ဖြေကြားခြင်းမပြုဘဲ နှုတ်ဆိတ်စွာ နေနေလိုက်သည်။ အုမရ် رَضِيَ ٱللَّهُ عَنْهُသခင်သည်

စိတ်မကောင်းလည်းဖြစ်၊ စိတ်လည်းဆိုးသွားခဲ့သည်။ အဗူဗကက် ﵁ သခင်ကြီးက “ အွတ်ဆ်မားန် ﵁ သခင်ထက် ကျွန်တော့်အပေါ် အုမရ် ﵁သခင်သည် ပိုမို စိတ်ဆိုးသွားပုံရသည်။” ဟု ပြောခဲ့ဖူးသည်။ ရက်အတန်ကြာပြီးသော အခါ ကိုယ်တော်မြတ် ﷺ ကိုယ်တော်တိုင်က မိမိအတွက် ဟဖ်ဆွာသခင်မကို ကမ်းလှမ်းခဲ့ပြီး သခင်မနှင့် လက်ဆက်ခဲ့သည်။

ကိုယ်တော်မြတ် ﷺ သည် သခင်မကြီးကို ဒိရ်ဟမ်(၄၀၀) မဟာရ် ပေးခဲ့ပြီး အခင်းတစ်ခု၊ ခေါင်းအုံးနှစ်လုံးလည်း ချီးမြှင့်တော်မူခဲ့သည်။

ဗိုခါရီကျမ်းလာ ဆင့်ပြန်ချက်အရ အုမရ် ﵁သခင်က ပြောပြသည်မှာ “ ဟဖ်ဆွာနှင့် ကိုယ်တော်မြတ်ﷺထိမ်းမြားပြီးနောက် အဗူဗကက်ရ် ﵁ သခင်နှင့် ကျွန်တော်တွေ့ဆုံခဲ့သည်။ အဗူဗကက်ရ် ﵁ က “အသင့်၏ ကမ်းလှမ်းချက်ကို လက်မခံဘဲ နှုတ်ဆိတ်စွာနေ နေသောကြောင့် စိတ်ဆိုးနေတယ်မဟုတ်လား။”ဟု မေးမြန်းခဲ့သည်။ ကျွန်တော်ကလည်း “ဟုတ်ပါတယ်”ဟု ဝန်ခံလိုက်သည်။ သခင်က “ကိုယ်တော်မြတ်ﷺက သခင်မအကြောင်း ပြောကြားနေသည်ကို ကျွန်တော်သိထားသောကြောင့် အသင့်ကို တစ်စုံတရာ အဖြေမပေးခဲ့တာပါ။ ကိုယ်တော်မြတ်ﷺ၏ လျှို့ဝှက်ချက်ကိုလည်း ကျွန်တော် မထုတ်ဖော်ချင်သောကြောင့်သာ တိတ်ဆိတ်စွာ နေခဲ့ခြင်းဖြစ်ကြောင်း” ဖြေကြားခဲ့သည်။

သခင်မကြီးနှင့် အခြားသော မိခင်မွန်များကို အကြောင်းခံပြီး စူရဟ် အဟ်ဇားဗ်အာယသ်(28-မှ32)ထိကျရောက်ခဲ့သည်။ သခင်မကြီး

တစ်ဦးတည်းကို အကြောင်းခံပြီး စူရဟ် သဟ်ရီးမ် အာယသ် ၁ မှ ၄ အထိ ကျရောက်ခဲ့သည်။

သခင်မသည် ကိုယ်တော်မြတ်ﷺနှင့် နောက်ဆုံးဟဂျ်ပြုခဲ့သည်။ ကိုယ်တော်မြတ်ﷺဝဖားသ်ဖြစ်ပြီးနောက်ပိုင်း မိမိအိမ်တွင်သာ နေထိုင်ခဲ့သည်။

အဗူဗက်ရ် رَضِيَ اللَّهُ عَنْهُ သခင်ကြီး အုပ်ချုပ်စဉ် အုမရ် رَضِيَ اللَّهُ عَنْهُသခင်၏ တောင်းဆိုမှုဖြင့် ကျမ်းမြတ်ကုရ်အာန်တစ်အုပ်လုံးကို တစ်စုတစ်စည်းထဲ စုစည်းခဲ့သည်။ ထိုကျမ်းမြတ်ကုရ်အာန်သည် အဗူဗက်ရ် رَضِيَ اللَّهُ عَنْهُ သခင်ကြီး ဝဖားသ်ဖြစ်ပြီးနောက် အုမရ် رَضِيَ اللَّهُ عَنْهُသခင်ကြီးထံတွင် ရှိခဲ့သည်။ ထို့နောက် သခင်မကြီးထံတွင် ရှိခဲ့သည်။ အွတ်ဆ်မားန် رَضِيَ اللَّهُ عَنْهُ သခင်၏ ခေတ်တွင် ကျမ်းမြတ်ကုရ်အာန်ကို ကေရာအသ်များအလိုက် ပြန်လည်ရေးသား၊ကူးပွားချိန်တွင် သခင်က ဤကုရ်အာန်အား သခင်မထံမှ ပြန်လည် တောင်းခံခဲ့သည်။

သခင်မ၏ အခန်းသည် မတ်စ်ဂျေ့ဒ္ဒေ နဗဝီ၏ တောင်ဘက်တွင် ရှိကြောင်း စမ်ဟူဒီသခင်က ရည်ညွှန်းခဲ့သည်။

## ကွယ်လွန်တော်မူခြင်း

မိခင်မွန် ဟဖ်ဆွာ رَضِيَ اللَّهُ عَنْهَاသည် မိုအာဝေ့ယာဟ် رَضِيَ اللَّهُ عَنْهُ သခင်အုပ်ချုပ်စဉ်ကာလ အစပိုင်း ဟစ်ဂျ်ရီ(၄၁)ခုနှစ်=ခရစ်နှစ် ၆၆၁)ခုနှစ်၊ သက်တော်(၆၁)နှစ်တွင် ကွယ်လွန်တော်မူခဲ့သည်။ သခင်မကြီး၏ ဂျနာဇာအား ထိုအခါက မဒီနာမြို့ဝန် မရ်ဝါးန်ဗင်န်ဟကမ်က ဖတ်ပေးခဲ့သည်။ ဗကီးအ် သင်္ချိုင်းတော်တွင် မြှုတ်နှံခံခဲ့ရသည်။ သခင်မ၏ ဂျနာဇာ

အား မရ်ဝါးန်၊ အဗူဟိုရိုင်ရဟ်رَضِيَ ٱللَّهُ عَنْهُသခင်တို့က ထမ်းရွက်ပြီး မောင်တော်များဖြစ်သော အဗ်ဒုလ္လာဟ် ဗင်န်အုမရ်၊ အာစွင်းမ်ဗင်န်အုမရ် رَضِيَ ٱللَّهُ عَنْهُمْ တို့က ကဗရ်ထဲသို့ ဆင်းခဲ့ကြသည်။

## သခင်မကြီး၏ ထူးခြားချက်များ

မိခင်မွန် ဟဖ်ဆွာသခင်မသည် ရှားရှားပါးပါး စာရေးကျွမ်းကျင်သည့် ပုဂ္ဂိုလ်မဖြစ်သည်။ သခင်မသည် ရေးသားခြင်းအနုပညာအား ရှေ့ဖားအ်ဗင်န်သေ့ အဗ်ဒုလ္လာဟ် သခင်မထံမှ သင်ယူခဲ့သည်။

သခင်မသည် ရိုဇာများစွာထားပြီး၊ များစွာ သဟဂျ်ဂျုဒ်ဖတ်သူမဖြစ်သည်။ ဆင်းရဲသားများအပေါ် ရက်ရောစွာ သုံးစွဲလှူဒါန်းခဲ့သည်။ ကိုယ်တော် မြတ် ﷺ အား အချစ်ကြီးချစ်သူမလည်းဖြစ်သည်။

သခင်မသည် အာဝဇ္ဇားန်ရှင်ပြီး၊ စကားအဖွဲ့အနွဲ့ကောင်းသည်။ ဖခင်ရှဟီးဒ်ဖြစ်ချိန် သခင်မဟောကြားခဲ့သည့် တရားသည် အရဗီဂုဏ်၊ ရသ၊ အလင်္ကာမြောက်လွန်းသဖြင့် နမူနာအဖြစ် သတ်မှတ်ခံခဲ့ရသည်။

ဂျိဗ်ရအီးလ် عَلَيْهِ ٱلصَّلَاةُ وَٱلسَّلَامُ ကိုယ်တော်တိုင် ကြွမြန်းလာပြီး ကိုယ်တော်မြတ်ﷺကို “ဟဖ်ဆွာသခင်မသည် ဂျန္နသ်တွင်လည်း ကိုယ်တော့်ဇနီးကြင်ယာအဖြစ် ရှိနေမည်ဖြစ်ကြောင်း” သတင်းကောင်းပေးခဲ့သည်။

သခင်မကြီးသည် အခြားသော ကြင်ယာတော်များနည်းတူ ကြပ်တည်းစွာဖြင့် ဘဝ၏နေ့ရက်များကို ကျော်ဖြတ်ခဲ့သည်။ မည်မျှပင်

ကြပ်တည်းနေပါစေ ကိုယ်တော်မြတ်ﷺအပေါ် သစ္စာရှိစွာဖြင့် ခါးသီးသော နေ့ရက်များကို ဖြတ်ကျော်ခဲ့သည်။

သခင်မသည် ကိုယ်တော်မြတ်ﷺနှင့် သားသမီးမထွန်းကားခဲ့သော်လည်း ကိုယ်တော့် အွမ္မသီအပေါင်းသည် သခင်မကြီး၏ ဝိညာဉ်ဆိုင်ရာ ရင်သွေးရတနာများပင် မဟုတ်ပါလော....။

သခင်မသည် မိမိပိုင်ဆိုင်သမျှ ဥယျာဉ်ခြံမြေနှင့် ပိုင်ဆိုင်မှုတို့ကို လူသားအကျိုးပြုလုပ်ငန်းများတွင် သုံးစွဲရန် လှူဒါန်းပေးခဲ့သည်။

## မိခင်မွန် ဟာဖ်ဆွဟ်رَضِيَ اللَّهُ عَنْهَا၏ ဘဝမှ သင်ခန်းစာများ

၁။ သခင်မနှင့် လက်ဆက်ခြင်းဖြင့် အုမရ်رَضِيَ اللَّهُ عَنْهُနှင့် ကိုယ်တော်မြတ်ﷺ ကြား ပိုမိုခိုင်မာသော တော်စပ်မှုဖြစ်သွားခြင်း။

၂။ အီမာန်နှင့် အစ္စလာမ်အတွက် ပေးဆပ်စတေးပြီး။ ကိုယ်တော်မြတ် ﷺ အား ချစ်မြတ်နိုးခြင်း။

၃။ အစကနဦးတွင်ပင် အစ္စလာမ်ကို လက်ခံခြင်းသည် ထွတ်မြတ်သည့် အဆင့်အတန်းပိုင်ဆိုင်ရန် အခွင့်ထူးဖြစ်ခြင်း။

၄။ အစ္စလာမ့်အတွက် စိတ်နှလုံးဖြူစင်စွာပေးဆပ်စတေးခြင်းဖြင့် နဗီကြင်ယာတော်၊ မုအ်မင်န်တို့၏ မိခင်မွန်ဖြစ်သွားခြင်း။

၅။ ကျမ်းမြတ်ကုရ်အာန်အား မြတ်နိုးတွယ်တာခြင်းနှင့် ကုရ်အာန်ကျမ်းမြတ် စုစည်းထိန်းသိမ်းရေးတွင် သမိုင်းဝင်စွမ်းဆောင်ချက်များပြုနိုင်ခဲ့ခြင်း။

၆။ နှလုံးရည်ပြည့်ဝပြီး အေဗာဒသ်စွမ်းရည် မြင့်မားခြင်းအရာတွင် မုအ်မင်န်အမျိုးသမီးအပေါင်းတို့အတွက် စံပြဖြစ်နေခြင်း။

၇။ ရက်ရောပြီး လူသားထုတစ်ရပ်လုံးအတွက် လူသားချင်းစာနာစိတ်ဖိတ်ခေါ်သံများ ကြေညာပေးခဲ့ခြင်း။

၈။ ကျမ်းမြတ်ကုရ်အာန်တွင် ဖော်ပြခံရသည့် ဖူးစာထူးကို ဆွတ်ခူးနိုင်ခဲ့ခြင်း။ رَضِيَ ٱللَّهُ عَنْهَا

## (၅) မိခင်မွန် ဇိုင်နဗ်ဗင်န်သေ့ ခုဇိုင်မဟ် رَضِيَ ٱللَّهُ عَنۡهَا နှင့် တဒင်္ဂ

## မိခင်မွန်အတို့အနက် ကိုယ်တော်မြတ်ﷺသက်ရှိထင်ရှား ရှိနေ စဉ်ပင် ကွယ်လွန်ခဲ့သည့် မိခင်မွန်၊ ကိုယ်တော်မြတ်ﷺကိုယ်တိုင် ဂျနာ ဇာနမားဇ်ဖတ်ပေးပြီး မင်္ဂလာဖော့ရှိသည်အတွက် ဒိုအာပြုပေးခံရခြင်း အခွင့်ထူး ကို ရရှိပိုင်ဆိုင်ခဲ့သည့် တစ်ဦးတည်းသော မိခင်မွန်။

အမည် - ဇိုင်နဗ်ဗင်န်သေ့ ခုဇိုင်မဟ် رَضِيَ ٱللَّهُ عَنۡهَا

မျိုးရိုးစဉ်ဆက် -

خزيمة بن الحارث بن عبد الله بن عمرو بن عبد مناف بن هلال بن عامر بن صعصعة بن معاوية بن بكر بن هوازن بن منصور بن عكرمة بن خصفة بن قيس عيلان بن مضر بن نزار بن معد بن عدنان.

ဂုဏ်ထူးဆောင်အမည်- အွမ္မုလ် မစာကီးန်

ဘွဲ့ထူး - မုအ်မင်န်တို့၏ မိခင်မွန်

ဖခင် - ခုဇိုင်မဟ်ဗင်န် အလ်ဟာရိဆ်

မိခင် - ဟင်န်ဒ်ဗင်န်သေ့ အောင်ဝ်ဖ်

မွေးချင်းမောင်နှမ - စလ်မာအ်ဗင်န်သေ့ အိုမိုင်းစ်၊ မိုင်မူနဟ် ဗင်န်သေ့ အလ်ဟာရိဆ်၊ လို့ဗာဗား အလ်ကုဗ်ရာ၊ အတ်စ်မားအ် ဗင်န်သေ့ အိုမိုင်းစ်

ယခင်အိမ်ထောင်ဆက် - အိုဗိုင်ဒဟ်ဗင်န်ဟာရိဆ် رَضِيَ ٱللَّٰهُ عَنْهُ၊ အဗ်ဒုလ္လာဟ် ဗင်န် ဂျဟရှ် رَضِيَ ٱللَّٰهُ عَنْهُ ၊ မြတ်ကိုယ်တော် မုဟမ္မဒ် ﷺ

သားသမီး - မထွန်းကား

ဖွားမြင်ခြင်း - နဗီ ဘွဲ့ထူး ချီးမြှင့်ခြင်းမခံရမီအလျှင် (၁၃)နှစ်= ခရစ်နှစ် (၅၉၅)

ဖွားမြင်သည့်နေရာ - မက္ကာရွှေမြို့တော်

ကွယ်လွန်တော်မူခြင်း - အေမာမ်အိဗ်နေ့ ဟဂျရ်၏ အလ် အေ့ဆွာဗာကျမ်းလာ ဆင့်ပြန်ချက်အရ (ဟစ်ဂျ်ရီ(၄)ခုနှစ်၊ ရဗီအွလ်ဆ္ဆာနီလ၊ = ခရစ်နှစ် (၆၂၅)ခု၊ စက်တင်ဘာလ)

ကွယ်လွန်သည့် နေရာ - မဒီနာရွှေမြို့တော်

ကိုယ်တော်မြတ် ﷺနှင့် နေထိုင်ခွင့်ရခဲ့သည့် ကာလ - (၃)လ

## (၅) မိခင်မွန် ဇိုင်နဗ်ဗင်န်သေ့ ခုဇိုင်မဟ် رَضِيَ ٱللَّهُ عَنْهَا ၏ အတ္ထုပ္ပတ္တိအကျယ်

မိခင်မွန်အတို့အနက် ကိုယ်တော်မြတ်ﷺသက်ရှိထင်ရှား ရှိနေစဉ်ပင် ကွယ်လွန်ခဲ့သည့် မိခင်မွန်၊ ကိုယ်တော်မြတ်ﷺကိုယ်တိုင် ဂျနာဇာနမားဇ်ဖတ်ပေးပြီး မဂ်ဖေ့ရသ်အတွက် ဒိုအာပြုပေးခံရခြင်း အခွင့်ထူးကို ရရှိပိုင်ဆိုင်ခဲ့သည့် တစ်ဦးတည်းသော မိခင်မွန်။

ကိုယ်တော်မြတ် ﷺ သက်ရှိထင်ရှားရှိနေခိုက် ခဒီဂျာ رَضِيَ ٱللَّهُ عَنْهَا လည်းပဲ ကွယ်လွန်ခဲ့တာပဲ...? ဟုတ်ကဲ့ .... သခင်မကြီးကွယ်လွန်ချိန် ဂျနာဇာတွင် ဖတ်ရသည့် ဒိုအာများ၊ ဂျနာဇာ၏အမိန့်များ မကျရောက်ခဲ့သေးပါ။

မိခင်မွန် ဇိုင်နဗ် ဗင်န်သေ့ခုဇိုင်မဟ် رَضِيَ ٱللَّهُ عَنْهَاသည် ကိုယ်တော်ﷺနဗီဘွဲ့ထူး ချီးမြှင့်ခြင်းမခံရမီအလျှင်(၁၃)နှစ်တွင် မွေးဖွားခဲ့သည်။

သခင်မသည် ဂျာဟေ့လီယသ်ခေတ်တွင်သိုဖိုင်းလ်ဗင်န်ဟာရိဆ်ဗင်န်မွသ်သွလိဗ်နှင့်လက်ဆက်ခဲ့သည်။

ရက်ပိုင်းအတွင်းမှာပင် သိုဖိုင်းလ်က သခင်မကြီးကို ကွာရှင်းပြတ်စဲခဲ့သည်။ ထို့နောက် အိုဗိုင်ဒဟ်ဗင်န် ဟာရိဆ်နှင့် လက်ဆက်ခဲ့သည်။ အိုဗိုင်ဒဟ်သည် ကိုယ်တော်မြတ် ﷺ ၏ ဦးလေးတော်စပ်သည်။

သခင်မသည်လည်း ကနဦးပိုင်း အစ္စလာမ့်လက်ခံခဲ့သည့် အမျိုးသမီးတစ်ဦးဖြစ်သည်။ သခင်မသည် အလွန်ရက်ရောသူမဖြစ်ပြီး ဆင်းရဲနွမ်းပါးသူများကိုလည်း သခင်မကြီးသည် များစွာ ပေးကမ်းလှူဒါန်းခဲ့သည်။ ဆာလောင်နေသူများကို ကျွေးမွေးခြင်း၊ နွမ်းပါးသူများ၏

စားဝတ်နေရေး ကိစ္စအဝဝကို တာဝန်ယူပေးခြင်းတို့ကြောင့် ပတ်ဝန်းကျင်တွင် အားလုံးက သခင်မကြီး أم المساكين သူဆင်းရဲတို့၏ မိခင်ဟု ကျော်ကြားခဲ့သည်။ သမိုင်းတွင်လည်း ဤဘွဲ့ထူးဖြင့် လူသိများခဲ့သည်။

သခင်မ၏ ခင်ပွန်း အိုဗိုင်ဒဟ်ဗင်န်ဟာရိဆ် رَضِيَ ٱللَّٰهُ عَنْهُသည် ကနဦး အစ္စလာမ်လက်ခံခဲ့သူများအနက်မှ ဖြစ်ပြီး ကိုယ်တော်မြတ် ﷺ ဟာဇရသ် အရ်ကမ်အိမ်တော်တွင် ရှိနေခိုက် များစွာ ကူညီခဲ့သူများမှ ဖြစ်သည်။ အဆုံးတွင် အဗူသွာလိဗ်လျှိုမြောင်ထဲသို့ ကိုယ်တော်နှင့်အတူ လိုက်ပါသွားခဲ့သည်။ ထိုအချိန် ဇနီးဖြစ်သူ မိခင်မွန် ဇိုင်နဗ်သခင်မသည်လည်း သခင်နှင့်အေးအတူ ပူအမျှ ဘဝအချိုးအကွေ့တိုင်းကို ဖြတ်ကျော်ခဲ့သည်။

## မဒီနာသို့ ဟိဂျ်ရသ် ပြုခြင်း

ကိုယ်တော်မြတ် ﷺက အဆွ်ဟာဗ်တော်အပေါင်းတို့အား မဒီနာရွှေမြို့တော်သို့ ဟိဂျ်ရသ်ပြုပြောင်းရွှေ့ခွင့်ပြုသောအခါ သခင်တို့ ဇနီးမောင်နှံလည်း မဒီနာသို့ ပြောင်းရွှေ့တော်မူခဲ့သည်။ ခင်ပွန်းသည် အိုဗိုင်ဒဟ်သခင်သည် ဟစ်ဂျ်ရသ်ပြုရာတွင် ဦးဆောင်ပြီး အားလုံးကို ကူညီခဲ့သည့် အတွက် شيخ المهاجرين "မိုဟာဂျိရ်တို့၏ အဓိပတိ"ဟူသော ဘွဲ့ထူးကို ရရှိခဲ့သည်။

## ဗဒရ်စစ်ပွဲတွင်

ဟစ်ဂျ်ရီ(၂)ခုနှစ်၊ လမြတ်ရမ်ဇာန်တွင် ဖြစ်ပျက်ခဲ့သည့် ဗဒရ် စစ်ပွဲတွင် မွတ်စ်လင်မ်တို့ဘက်မှ တစ်ကိုယ်တော် စီးချင်းထိုးရန်ထွက်ခဲ့

သည့် ဆွဟာဗီ(၃)ပါးတွင် အလီ ﵁ ၊ ဟမ်ဇား ﵁နှင့်အတူ အိုဗိုင်ဒဟ် ﵁လည်း ပါဝင်ခဲ့သည်။ သခင်၏ ဒူးကို ရန်သူက ခုတ်လိုက်ရာ ချဉ်ဆီများ ထွက်လာခဲ့သည်။ ထိုအခြေအနေဖြင့် ကိုယ်တော်မြတ်ﷺ ထံ ခေါ်ဆောင်လာရာ သခင်က "အို..ကိုယ်တော် ကျွန်တော်မျိုး ရှဟီဒီ မဖြစ်တော့ဘူးလား"ဟု စိုးရိမ်တကြီး မေးမြန်းခဲ့သည်။ ကိုယ်တော်မြတ်ﷺက "မုချအသင်ဟာ ရှဟီဒီဖြစ်ပါတယ်" ဟု မိန့်ကြားခဲ့သည်။ ဗဒရ်မှအပြန် ဝါဒီ ဆွဖ်ရာအ်တွင် သခင် ကွယ်လွန်သွားခဲ့သည်။ ကွယ်လွန်ချိန် သခင်၏ သက်တော်မှာ (၆၃)နှစ်ဖြစ်သည်။

အချိန်ကာလတစ်ခုအထိ ဤဝါဒီ(လျှိုမြောင်)မှ ကံတိုးရနံ့များ သင်းပျံ့နေခဲ့သည်။ ဆွဟာဗာတို့က ဤလျှိုမြောင်ထဲတွင် ကံတိုးရနံ့များ ဘယ်ကလာနေသနည်းဟု အံ့သြစွာ မေးမြန်းသောအခါကိုယ်တော်မြတ် ﷺက အဗူမိုအာဝေ့ယဟ်(အိုဗိုင်ဒဟ်)၏ ကဗရ်ရှိနေသောကြောင့် ဤသို့ ရနံ့များ သင်းပျံ့နေခြင်းကို အသင်တို့ အံ့သြနေကြသလား" ဟု မေးမြန်းတော်မူခဲ့သည်။

သခင် ကွယ်လွန်သွားပြီဟူသော သတင်းကြားရသောအခါ ဇိုင်နဗ်သခင်မက إنا لله وإنا إليه راجعون"ကျွန်မတို့အားလုံးသည် အလ္လာဟ်အရှင်မြတ်အတွက်ဖြစ်ပြီး အရှင်မြတ်ထံသို့သာ ပြန်ကြရမည် ဖြစ်သည်"ဟူ၍ ပြောကြားခဲ့သည်။

အိဒ္ဒသ်ရက်များ ပြီးဆုံးသွားသောအခါ ကိုယ်တော်မြတ် ﷺနှင့် ဝမ်းကွဲညီအစ်ကို တော်စပ်သူ အဗ်ဒုလ္လာဟ်ဗင်န် ဂျဟ်ရှ် ﵁သခင်သည် သခင်မကြီးနှင့် ထိမ်းမြားခဲ့သည်။ သခင်သည် အစ္စလာမ့်အတွက်

ပြိုင်စံရှား ပေးဆပ်မှုများပြုခဲ့သည်။ အိုဟိုဒ်စစ်ပွဲတွင် အဗုလ်ဟာကမ် ဗင်န်အခ်နတ်စ်၏ ဓါးခုတ်ချက်ဖြင့် ရှဟီးဒ်ဖြစ်သွားခဲ့သည်။

ကိုယ်တော်မြတ်က ﷺ သခင့်အား ဟာမ်ဇားرَضِيَ اللَّهُ عَنْهُနှင့်အတူ ကျင်းတစ်ခုထဲတွင် မြှုတ်နှံတော်မူခဲ့သည်။ ဤသို့ဖြင့် ဇိုင်နဗ် သခင်မ၏ ခင်ပွန်းဖြစ်သူထပ်မံကွယ်လွန်သွားရှာသည်။

ဤမျှခံစားခဲ့ရသော ကြေကွဲမှုများ၊ ဒုက္ခသုက္ခများကို အရှင်မြတ်က အစားပေးသနားတော်သည့်အနေဖြင့် သခင်မကြီးကို ကိုယ်တော်မြတ်ﷺ၏ ကြင်ယာတော်အဖြစ်၊ မုအ်မင်န်တို့၏ မိခင်မွန်အဖြစ် လက်ခံတော်မူခဲ့သည်။

သခင်မကြီးအား ကိုယ်တော်မြတ် ﷺက ကမ်းလှမ်းတော်မူခဲ့ပြီး ထိမ်းမြားခဲ့သည်။ မဟာရ်အဖြစ် ငွေဒင်္ဂါး (၄၈၀)ပေးကမ်းခဲ့သည်။

သခင်မသည် ကိုယ်တော်မြတ်ﷺနှင့် လက်ဆက်ပြီး နှစ်လ၊ သုံးလအတွင်း ကွယ်လွန်သွားခဲ့သည်။ ကွယ်လွန်ချိန် သခင်မကြီး၏ သက်တော်မှာ (၃၀)သာ ရှိသေးသည်။

## မိခင်မွန် ဇိုင်နဗ် رَضِيَ اللَّهُ عَنْهَا ၏ ထူးခြားချက်များ

(၁) ဆင်းရဲသားများအား ပေးကမ်းလှူဒါန်းခြင်း၊ ကျွေးမွေးစောင့်ရှောက်ခြင်းကြောင့် "သူဆင်းရဲတို့၏ မိခင်"ဟူသော ဘွဲ့ထူးကို ဆွတ်ခူးရရှိခြင်း။

(၂) အရှင့်လမ်းတွင် ရှဟီးဒ်ဖြစ်သွားသော မိုဂျာဟိဒ် ဆွဟာဗီနှစ်ပါး၏ ကြင်ယာဖြစ်ခွင့်ရရှိခြင်း။

(၃) မိခင်မွန်အားလုံးတို့တွင် ကိုယ်တော်မြတ် ﷺကိုယ်တိုင် ဂျနာဇာဖတ်ပေးပြီး၊ မင်္ဂလာရှိဖွဲ့ရသည် လွတ်ငြိမ်းချမ်းသာခွင့် တောင်းပေးခြင်း ခံရသည့် နဖူးစာထူးကို ရရှိခြင်း။

(၄) ဂျန္နသုလ်ဗကီးအ်သင်္ချိုင်းတော်တွင် မိခင်မွန်တို့အနက် ပထမဆုံး မြှုတ်နှံခံရခြင်း။

(၅) သခင်မ၏ မအေတူ ဖအေကွဲညီအစ်မဖြစ်သည့် မိခင်မွန် မိုင်မူနဟ် رَضِيَ اللَّهُ عَنْهَاသခင်မကြီးသည်လည်း သခင်မကွယ်လွန်ပြီးနောက် မြတ်ကိုယ်တော် ﷺ၏ ကြင်ယာတော်ဖြစ်သွားခြင်း။

## မိခင်မွန် ဇိုင်နဗ်ဗင်န်သေ့ ခိုင်ဇိုင်မဟ် رَضِيَ اللَّهُ عَنْهَا၏ ဘဝမှသင်ခန်းစာများ

၁။ ကနဦးပိုင်းတွင် အစ္စလာမ့်အတွက် ပေးဆပ်ခြင်းအတွက် ကြီးကျယ်သော ဆုလာဘ်များ။

၂။ ရက်ရောခြင်း၊ လူသားချင်းစာနာစိတ်ရှိခြင်းတို့သည် အနာဂတ်အတွက် ကောင်းသော ရလဒ်များကို ဖြစ်ပေါ်စေခြင်း။

၃။ အချိန်တိုင်း ၊ အခြေအနေတိုင်းတွင် သီးခံခြင်းတရား လက်ကိုင်ထားခြင်း။

၄။ ဘဝ၏အချိုးအကွေ့တိုင်းကို အစ္စလာမ့်အချစ်၊ နဗီအချစ်များနှင့် ဖြတ်ကျော်ခြင်း။

## (၆) မိခင်မွန်ဇိုင်နဗ်ဗင်န်သေ့ ဂျဟရှ် رَضِيَ اللَّهُ عَنْهَا နှင့် တဒင်္ဂ

**မလျော့သော ဖွဲ့သတ္တိ၊ ရက်ရောစွာလှူဒါန်းခြင်း၏ ပြယုဂ်၊ သူမရဲ့နေကာအစီအစဉ်ကို မြတ်ရှင်အလ္လာဟ်ကိုယ်တော်တိုင် နှစ်ဘဝ ခေါင်းဆောင် မြတ်ကိုယ်တော်ﷺနှင့် သတ်မှတ်ပေးခြင်းခံရသူမ၊ သူမ၏ အကြောင်းခံဖြင့် နှစ်ရှည်လများ အမြစ်တွယ်နေသော ဂျာဟေ့လီယဟ် အမိုက်ခေတ် ထုံးတမ်းစဉ်လာများအား ကျူပင်ခုတ် ကျူငုတ်မကျန် ပြုနိုင်ခဲ့....။**

အမည် - ဇိုင်နဗ် ဗင်န်သေ့ ဂျဟရှ်

မျိုးရိုးစဉ်ဆက် -

هي زَيْنَبُ بِنْتُ جَحْش بْنِ رِيَاب بْنِ يعمر بن صبرة بن مرة بن كبير بن غنم بْنِ دُودَانَ بْنِ أَسَدِ بْنِ خُزَيْمَةَ. وأُمُّهَا هي عمة النبي محمد أميمة بِنْت عَبْد المطَّلِب بْن هاشم بن عبد مناف بن قصي.

ဂုဏ်ထူးဆောင်အမည်- အွမ္မုလ်ဟကမ် ၊ အွမ္မုလ် မစာကီးန်

ဘွဲ့ထူး - မုအ်မင်န်အပေါင်းတို့၏ မိခင်မွန်

ဖခင် - ဂျဟရှ်ဗင်န်ရိယာဗ်

မိခင် - အိုမိုင်မဟ် ဗန်သေ့ အဗ်ဒိလ် မုသ္တ်လိဗ်

မွေးချင်းမောင်နှမ - အဗ်ဒုလ္လာဟ်ဗင်န်ဂျဟရှ်၊
အိုဗိုင်ဒွလ္လာဟ်ဗင်န်ဂျဟရှ်၊ အဗူအဟ်မဒ်၊ ဟမ်နဟ် ၊ ဟဘီဘဟ်

ယခင်အိမ်ထောင်ဆက် - ဇိုင်ဒ်ဗင်န် ဟာရိဆဟ် رَضِيَ ٱللَّٰهُ عَنْهُ

သားသမီး - မထွန်းကား

ဖွားမြင်ခြင်း - ဟိဂျ်ရာသ်မတိုင်မီ (၃၂)နှစ်၊

ဖွားမြင်သည့်နေရာ - မက္ကာရွှေမြို့တော်

ကွယ်လွန်တော်မူခြင်း - သက်တော် (၅၃)နှစ်၊ ဟစ်ဂျီရီ (၂၀-၂၁ ခုနှစ်တွင်)

ကွယ်လွန်သည့် နေရာ - မဒီနာရွှေမြို့တော် ၊ ဗကီးအ်ာ သင်္ချိုင်းတော်တွင် မြှုပ်နှံခံရသည်။

ဆင့်ပြန်ခဲ့သည့် ဟဒီးဆ်တော်ပေါင်း - (၁၁)ပုဒ်

ကိုယ်တော်မြတ် ﷺ နှင့် နေထိုင်ခွင့်ရခဲ့သည့် ကာလ - (၆)နှစ်ခန့်

## မိခင်မွန် ဇိုင်နဗ် ဗင်န်ဂျဟ်ရှ် رَضِيَ ٱللَّهُ عَنْهَا သခင်မ၏ အထွတ်ပွတ္တိအကျယ် ငယ်စဉ်ဘဝနှင့်ပထမအိမ်ထောင်ဆက်

မိခင်မွန် ဇိုင်နဗ် ဗင်န်ဂျဟ်ရှ် رَضِيَ ٱللَّهُ عَنْهَا သခင်မကြီးသည် ကိုရိုင်ရှ်မျိုးနွယ်ဝင်ဖြစ်သည်။ ဟစ်ဂျ်ရာသိ မတိုင်မီ (၃၃)နှစ်တွင် မက္ကာဟ် မြို့တော်၌မွေးဖွားခဲ့ပြီး မက္ကာဟ်ရွှေမြို့တော်၌ပင် ကြီးပြင်းခဲ့သည်။ အစ္စလာမ်သာသနာတော်ကို ကနဦးပိုင်းတွင် လက်ခံခဲ့သည်။ မဒီနာရွှေမြို့တော်သို့ အစောဆုံး ဟစ်ဂျ်ရာသိပြုခဲ့သည်။

အစပိုင်းတွင် သခင်မကြီးသည် ကိုယ်တော်မြတ် ﷺ၏ ကျွန် ဇိုင်ဒ်ဗင်န်ဟာရေ့ဆဟ် رَضِيَ ٱللَّهُ عَنْهُ နှင့် ဟစ်ဂျ်ရီ(၄)ခုနှစ်တွင် ထိမ်းမြားလက်ထပ်ခဲ့သည်။ မျိုးရိုးကွာဟာမှုနှင့်အခြားသော အကြောင်းမတိုက်ဆိုင်မှုများကြောင့် အိမ်ထောင်ရေး ဖူးစာသက်မကြာရှည်ခဲ့ပါ။ အဆုံးပိုင်းတွင် ဇိုင်ဒ်သခင်နှင့် လမ်းခွဲခဲ့ရသည်။

## ကိုယ်တော်မြတ် ﷺ နှင့် ထိမ်းမြားခြင်း၏အကြောင်းတရားများ

ထို့နောက် အရှင်မြတ်ကိုယ်တော်တိုင်က ဟစ်ဂျ်ရီ(၅)ခုနှစ်၊ ဇုလ်ကအ်ဒဟ်လမြတ်တွင် သခင်မကြီးကို မြတ်ကိုယ်တော် ﷺ နှင့် ထိမ်းမြားရန် ကျမ်းမြတ်ကုရ်အာန်တွင် အောက်ပါအတိုင်း ဆုံးဖြတ်တော်မူခဲ့သည်။ ထိုအခါ သခင်မ၏သက်တော်မှာ (၃၆)နှစ်ပြည့်ပြီဖြစ်သည်။

فَلَمَّا قَضَىٰ زَيْدٌ مِّنْهَا وَطَرًا زَوَّجْنَٰكَهَا لِكَىْ لَا يَكُونَ عَلَى ٱلْمُؤْمِنِينَ حَرَجٌ فِىٓ أَزْوَٰجِ أَدْعِيَآئِهِمْ إِذَا قَضَوْا۟ مِنْهُنَّ وَطَرًا ۚ وَكَانَ أَمْرُ ٱللَّهِ مَفْعُولًا

"ဇိုင်ဒ်သည် (ဇိုင်နဗ်သခင်မ)ထံမှ မိမိ၏စိတ်လိုအပ်ချက် အကန့်ပြီးဆုံး သွားသောအခါ ငါအရှင်မြတ်ကိုယ်တိုင် အသင့်အား ထို(ဇိုင်နဗ်)နှင့် ထိမ်းမြားပေးခဲ့သည်။ ဤသည် မွေးစားသားများအနေဖြင့် မိမိတို့၏ ဇနီးကြင်ယာများနှင့် ကွာရှင်းပြတ်စဲပြီးပါက မုအ်မင်နံအပေါင်းတို့သည် မွေးစားသားတို့၏ ဇနီးများဖြင့် ထိမ်းမြားပါက တစ်စုံတရာ ပြဿနာ မရှိစေရ။ အရှင်မြတ်၏ အမိန့်တော်သည် သတ်မှတ် ပြဋ္ဌာန်းပြီး ဖြစ်သည်။

စူရဟ် အဟ်ဇာဗ် - အာယသ် (၃၇)

ဤအာယသ်တော်အရ သခင်မနှင့် ကိုယ်တော်မြတ်ﷺ၏ ထိမ်းမြားခြင်းမှာ -

၁။ လူသားတိုင်းသည် တန်းတူညီတူအခွင့်အရေး ရထိုက်ကြောင်း၊ သူကောင်းပြုခံရသည့် ကျွန်သည်လည်း လွတ်လပ်သူနှင့် ထိမ်းမြားခြင်း၊ ကွာရှင်းခြင်းတို့ကို ပြုလုပ်နိုင်ကြောင်း။

၂။ အရှင်မြတ်ကိုယ်တော်တိုင် စီစဉ်ထားသည်ဖြစ်ကြောင်း။

၃။ မွေးစားသား၏ ဇနီးနှင့် မွေးစားအဖေက လက်မထပ်ရဟူသော ဂျာဟေ့လီယသ် အမိုက်ခေတ် ထုံးတမ်းစဉ်လာကို ပယ်ဖျက်ရန်ဖြစ်ကြောင်းသိရှိရသည်။

ဤထိမ်းမြားမှုနှင့် ညော့်ခံပွဲအစီအစဉ်တွင် အစ္စလာမ့်ပတ်ဝန်းကျင်အတွက် ညော့်ခံပွဲများအတွက် လမ်းညွှန်ချက်များကို မြတ်ကုရ်အာန် စူရဟ်အဟ်ဇာဗ်တွင် အောက်ပါအတိုင်း လမ်းညွှန်ထားသည်။

၁။ ခွင့်မဲ့ အိမ်ထဲသို့ မဝင်ရ။

၂။ အမျိုးသမီးနှင့်အမျိုးသား ပရ်ဒဟ်ခြားထားရမည်။

၃။ မဖိတ်ကြားဘဲ မတက်ရောက်ရ။

၄။ ဝလီမာစားသောက်ပြီးသောအခါ အိမ်ရှင်များ ဒုက္ခရောက်သည်အထိ ဆက်လက်ထိုင်နေခြင်းမျိုး မပြုလုပ်ရ။

အထက်ပါအချက်အလက်များအရ သခင်မကြီး၏ မြတ်နဗီနှင့် ထိမ်းမြားခြင်းသည် မွတ်စ်လင်အပေါင်းတို့အတွက် ရွှေရောင်လမ်းညွှန်ချက်များနှင့် မင်္ဂလာပေါ်မင်္ဂလာထပ်သော အနှစ်သာရများ ရရှိဖွယ်ရာဖြစ်ကြောင်း သိရှိရသည်။

သခင်မကြီးကလည်း မိခင်မွန်တို့အကြား "အသင်မတို့ကို ကိုယ်တော်မြတ်ﷺနှင့် အသင်တို့အိမ်သူအိမ်သားတာဝန်ခံများက ထိမ်းမြားပေးခြင်းဖြစ်ပြီး၊ ကျွန်မကိုမူ အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင်က မြတ်ကိုယ်တော်နှင့် မိုးခုနှစ်ထပ်မှ ထိမ်းမြားပေးထားခြင်းဖြစ်သည်" ဟူ၍ အမြဲ ဂုဏ်ယူလေ့ရှိသည်။

ကိုယ်တော်မြတ် ﷺ သည် သခင်မ၏ ဝလီမာမင်္ဂလာပွဲအတွက် စိတ်တစ်ကောင် ဇဗဟ်ပြုလုပ်ကာ ကျွေးမွေးခဲ့သည်။ ဤသည် ကိုယ်တော်မြတ်ﷺပြုလုပ်ခဲ့သမျှသော ဝလီမာမင်္ဂလာဧည့်ခံပွဲအတွက် အခမ်းနားဆုံးဖြစ်ကြောင်း အနတ်စ် رَضِيَ ٱللَّٰهُ عَنْهُ သခင်က ဆိုခဲ့သည်။

## သာသနာ့ကြိုးပမ်းမှုများတွင် ပါဝင်ခြင်းနှင့် ကွယ်လွန်ခြင်း

သခင်မသည် သွာအိဖ်စစ်ပွဲ၊ ခိုင်ဗရ် စစ်ပွဲနှင့်နောက်ဆုံး ဟဂ်ျ တွင် ပါဝင်ခွင့်ရရှိခဲ့သည်။ ကိုယ်တော်မြတ် ﷺ ဝဖားသ်ဖြစ်ပြီးနောက် ဟဂ်ျမပြုတော့ပေ။

သခင်မသည် ခဒီဂျာသခင်မကြီးနောက် မိခင်မွန်တို့အနက် ပထမဆုံး ကွယ်လွန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺက ကိုယ်တော်တိုင် မိခင်မွန်အပေါင်းတို့အား "အသင်မတို့အနက် ငါကိုယ်တော်နှင့် ပထမဆုံး လာရောက်တွေ့ဆုံသူမမှာ အရက်ရောဆုံးသူမဖြစ်သည်။"ဟူ၍ မိန့်ကြားခဲ့သည်။ ဟစ်ဂျ်ရီ(၂၀)ခု၊အချို့အဆိုအရ (၂၁)ခုနှစ်၊ အိုမရ် رَضِيَ ٱللَّٰهُ عَنْهُ သခင်ကြီး အုပ်ချုပ်စဉ်ကာလတွင် ကွယ်လွန်ခဲ့သည်။ သခင်မသည် မကွယ်လွန်မီ မိမိအတွက် ကဖန်ကို ကြိုတင်စီမံထားခဲ့သည်။ ထို့နောက် သမ္မတကြီး အိုမရ်သခင်ထံမှ ကဖန်ရောက်ရှိလာခဲ့ပါမူ ကြိုက်နှစ်သက်ရာကို ဆွဒကဟ်ပြုနိုင်ကြောင်း မိန့်ကြားခဲ့သည်။ သခင်မကြီး၏ ညီမဖြစ်သူ ဟမ်နဟ် رَضِيَ ٱللَّٰهُ عَنْهَا သခင်မကြီးက တစ်စုံကို ဆွဒကဟ်ပြုလှူဒါန်းလိုက်သည်။

သခင်မ၏ ဂျနာဇာကို အိုမရ်رَضِيَ ٱللَّٰهُ عَنْهُသခင်ကိုယ်တိုင် ဖတ်ပေးခဲ့သည်။ ဗကီးအ်သင်္ချိုင်းတော်တွင် မြှုတ်နှံခံခဲ့ရသည်။

## မိခင်မွန် ဇိုင်နဗ် ဗင်န်သေ့ ဂျဟရှ် رَضِيَ ٱللَّٰهُ عَنْهَا သခင်မ၏ထူးခြားချက်များ

သခင်မသည် သာသနာကိုင်းရှိုင်းပြီး အမှန်တရားကို ပြောဆိုသူမဖြစ်သည်။ များစွာ အေဗာဒသ်ပြုသူမဖြစ်သည်။ သခင်မ၏ ကောင်း

ခြင်းများကို ကိုယ်တော်မြတ်ﷺအသိအမှတ်ပြုထားကြောင်း ဟာဖိဇ် အိဗ်နေ့ဟဂျရ်ﷺက အလ်အဲဆွာဗဟ်ကျမ်းတွင် ဖော်ပြထားသည်။

သခင်မ၏ အကြောင်းခံဖြင့် သာသနာတော်၏ အဓိကအမိန့် တော်ဖြစ်သော "အရှင်မြတ်က ဟလာလ် စားပိုင်၊သုံးပိုင်သည်ဟု ပြု ထားသောအရာအား မည်သူတစ်ဦးယောက်မျှ ဟရာမ်" မစားပိုင်၊ မသုံး ပိုင်"ဟု ပြောင်းလဲသတ်မှတ်ခွင့်မရှိ" ဟူသော စူရဟ်သဟ်ရီးမ်၏အစ ပိုင်း အာယသ်တော် ကျရောက်ခဲ့သည်။

သခင်မသည် ကောင်းခြင်းကောင်းရာများဖြန့်ချိခြင်းကို အလွန် ပင် နှစ်သက်တော်မူသည်။ များစွာ လှုဒါန်းသူမလည်းဖြစ်သည်။ ထို့ကြောင့်ပင် (အွမ္မုလ်မစာကီးန်)ဟူသော ဘွဲ့ထူးကို ဆွတ်ခူးရရှိခဲ့ သည်။ သခင်မသည် လောကီကို စွန့်လွှတ်ကျောခိုင်းသူမဖြစ်သည်။

ဤကိစ္စနှင့်ပတ်သက်ပြီး စီရသ်ကျမ်းများတွင် အောက်ပါအတိုင်း တင်ပြထားသည်။ သမ္မတကြီး အိုမရ် رَضِيَ ٱللَّٰهُ عَنْهُသခင်သည် ငွေဒင်္ဂါး (၁၂၀၀၀) သခင်မကြီးထံ ပို့သပေးခဲ့သည်။ ထိုအခါ သခင်မကြီးက ဤငွေဒင်္ဂါးများကို ကြည့်ပြီး ယူဆောင်လာသူအား "ငါ့ညီအစ်များဟာ ငါ့ထက် ပိုမိုလိုအပ်ချက်ရှိနေကြပါတယ်။ ယူဆောင်လာသူက အားလုံး အတွက် စီစဉ်ထားခြင်းဖြစ်ကြောင်း ဤသည် သခင်မ အတွက်သာ ဖြစ် ကြောင်း လျှောက်ထားသောအခါ သခင်မက ဤငွေဒင်္ဂါးများအပေါ် အဝတ်အုပ်လိုက်ပြီး အားလုံးကို ဝေငှပစ်လိုက်ပါဟုသာ မိန့်ကြားလိုက် သည်။ ထိုအခါ ဤငွေဒင်္ဂါးများကို ယူဆောင်လာသော ဘုရ်ဒါဟ် ဗန်သေ့ ရာဖေ့အ် သခင်မကလည်း အားလုံးကို ကြုံးယူဝေငှပစ်လိုက်သည်။ လက်ခံရရှိသူများတွင် သခင်မကြီး၏ ဆွေမျိုးသားချင်းများ၊ ဖတာဆိုး

ကလေးငယ်များ၊ မုဆိုးမများ စသဖြင့် ချည့်နဲ့ အားနွဲ့သည့် လူတန်းစား အလွှာစုံပါဝင်ခဲ့သည်။

ဘုရ်ဒါဟ်သခင်မက ကျွန်မအတွက်လည်း ခံစားခွင့်ရှိပါသလား ဟု မေးလျှောက်ရာ သခင်မကြီးက ကျန်ရှိငွေဒင်္ဂါးအားလုံး အသင်မ ယူလိုက်ပါဟုမိန့်ကြားလိုက်သည်။ ကျန်ရှိ ငွေဒင်္ဂါးများကို ရေတွက်ကြည့်လိုက်ရာ စုစုပေါင်း(၅၀)ဖြစ်သည်။

ထို့နောက် ကောင်းကင်ဘက်သို့ လက်ဖြန့်ပြီး အို..အရှင်မြတ် လာမည့်နှစ်တွင် ဤကဲ့သို့သော အသုံးစားရိတ်များ မရပါရစေပါနဲ့၊ ဤ အသုံးစားရိတ်များသည် ပြဿနာဖန်တီးပေးပါသည်” ဟု တောင်းဆုပြု ခဲ့သည်။

သခင်မသည် သားရေများသန့်စင်သည် လက်မှုပညာရပ်ကို ကျွမ်းကျင်သူမဖြစ်ပြီး ဤနည်းပညာဖြင့် အသက်မွေးဝမ်းကျောင်းပြုခဲ့ သည်။

သခင်မသည် သာသနာတော်၏ အမိန့်ပညတ်ချက်ပေါင်းများ စွာကို ချစ်နဗီ ﷺထံမှ တိုက်ရိုက် သင်ယူခဲ့သည်။ ထိုနည်းတူစွာ ဝိဉာဉ် ပိုင်းဆိုင်ရာ သင်ခန်းစာပေါင်းများစွာကိုလည်း လက်ထက် သင်ယူခွင့် ရရှိခဲ့သည်။

သခင်မ၏ အကြောင်းခံဖြင့် သာသနာတော်နှင့်စပ်လျဉ်းသည့် များစွာသော အမိန့်ပညတ်ချက်များ၊ ဟဒီးဆ်တော်များ သိရှိခဲ့ရသည်။

## မိခင်မွန် ဖိုင်နတ်ဗ်ﷺ ၏ ဘဝမှ သင်ခန်းစာများ

၁။ ရက်ရောစွာ လှူဒါန်းခြင်း။

၂။ စိတ်ရောကိုယ်ပါ အရှင်မြတ်၏ အေဗာဒသ်တွင် မွေ့လျော်ခြင်း။

၃။ လောကကို ကျောခိုင်းနိုင်ခြင်း။

၄။ မိမိရွေးနည်းရေစာဖြင့် ဘဝကို ကုန်ဆုံးခြင်း။

၅။ သေခြင်းတရားအတွက် အမြဲတမ်း အဆင်သင့်ရှိနေခြင်း။

၆။ မိမိအဆင့်ကို သိရှိကာ တန်ဖိုးထားခြင်း။

၇။ စိတ်ထဲရှိသည့်အရာများကို ပွင့်ပွင့်လင်းလင်း ဖွင့်ဟပြောဆိုခြင်း။

၈။ အခွင့်အရေးမယူခြင်း၊ မိမိရပိုင်ခွင့်ပင်ဖြစ်လင့်ကစား မိမိထက် အခြားသူများကို ဦးစားပေးခြင်း၊ ခံစားခွင့်ပေးခြင်း။

၉။ သာသနာ့အသိများကို စနစ်တကျသင်ယူကာ ပြန်လည် ပို့ချခြင်း။

၁၀။ အမျိုးသမီးတိုင်းသည် အသက်မွေးဝမ်းကျောင်းပညာရပ်တစ်ခုခုကို တတ်မြောက်ကာ မိမိအတွက် ပတ်ဝန်းကျင်အတွက်ပါ အကျိုးပြုပေး နိုင်ခြင်း။

## (၈) မိခင်မွန် ဂျုဝိုင်ရိယဟ် ဗင်န်သေ့ ဟာရိဆ် رَضِيَ ٱللَّهُ عَنۡهَا နှင့် တဒင်္ဂ

## မိမိ၏ဖွဲ့သတ္တိ၊ ထက်မြက်လှသော ဉာဏစွမ်းရည်များနှင့် မိမိအမျိုးသားများကို သေးသိမ်ခြင်းမှ လွတ်မြောက်စေခဲ့သူမ၊ မိမိအမျိုးသားတို့ကို သိက္ခာအပေါင်း သရဖူဆောင်းပေးခဲ့သူမ (သို့) မိခင်မွန် ဂျုဝိုင်ရိယဟ် ဗင်န်သေ့ ဟာရိဆ် رَضِيَ ٱللَّهُ عَنۡهَا သခင်မ

အမည် - ဂျုဝိုင်ရိယဟ်

မျိုးရိုးစဉ်ဆက် -

جويرية بنت الحارث بن أبي ضرار بن حبيب بن عائذ بن مالك بن المصطلق بن سعيد بن عمرو بن ربيعة بن حارثة بن خزاعة.

ဘွဲ့ထူး - မုအ်မင်န်တို့၏ မိခင်မွန်

ဖခင် - ဟာရိဆ်ဗင်န် အဗီသေ့ရားရ်

မွေးချင်းမောင်နှမ - မောင်နှစ်ဦး

ယခင်အိမ်ထောင်ဆက် - မုစာဖိဟ်ဗင်န်ဆွဖ်ဝါန်

သားသမီး - မထွန်းကား

ဖွားမြင်ခြင်း - ဟစ်ဂျ်ရသ်မတိုင်မီ (၁၅)နှစ်၊ = ခရစ်နှစ် (၆၀၈)ခုဝန်းကျင်

ဖွားမြင်သည့်နေရာ - မဒီနာရွှေမြို့တော်

ကွယ်လွန်တော်မူခြင်း - ဟစ်ဂျ်ရီ (၅၆)ခုနှစ်၊ ရဗီအွလ်အောက်ဝလ်၊ ခရစ်နှစ်(၆၇၆)ခု၊ ဖေဖဝါရီလ

ကွယ်လွန်သည့် နေရာ - မဒီနာရွှေမြို့တော် ၊ ဗကီးအ် သင်္ချိုင်းတော်တွင် မြှုပ်နှံခံရ။

ဆင့်ပြန်ခဲ့သည့် ဟဒီးဆ်တော်ပေါင်း - (၇)ပုဒ်

ကိုယ်တော်မြတ် رَضِيَ ٱللَّهُ عَنْهَا နှင့် နေထိုင်ခွင့်ရခဲ့သည့် ကာလ - ၆နှစ်

## မိခင်မွန် ဂျုဝိုင်ရီယဟ် ဗင်န်သေ့ ဟာရိဆ် رَضِيَ ٱللَّٰهُ عَنْهَا အတ္ထုပ္ပတ္တိ အကျယ်

မိခင်မွန် ဂျုဝိုင်ရီယဟ် رَضِيَ ٱللَّٰهُ عَنْهَا သခင်မသည် ကိုယ်တော်မြတ် ﷺ ၏အဌမမြောက် ကြင်ယာတော်ဖြစ်သည်။

“အို..အလ္လာဟ်အရှင်မြတ်၏ရစူလ် ကျွန်မသည် ကိုယ်တော်ရစူလ်ဖြစ်ကြောင်းကို ထောက်ခံသည့် အမျိုးသမီးတစ်ဦးဖြစ်ပါသည်။ ယခုကျွန်မအပေါ် ဒုက္ခမိုးတိမ်များ အုံ့ဆိုင်းလျက်ရှိနေပြီဖြစ်ကြောင်း ကိုယ်တော် အသိပါ။ ဘဝ၏ အခြေအနေများမှာ ကျွန်မအား ကျွန်အဖြစ်သို့ တွန်းပို့နေပြီဖြစ်ပါသည်။ ကျွန်မသည် ဂုဏ်သရေရှိ ခေါင်းဆောင်တစ်ဦး၏ သမီးဖြစ်ပါသည်။ ကျွန်မအနေဖြင့် ကျွန်မကို ပိုင်ဆိုင်ခွင့်ရသွားသော သခင်နှင့် ညှိနှိုင်းကြည့်ရာ ၎င်းက ရွှေ (၁၉ အောင်ကီယဟ်) ပေးလျှင် သူကောင်းပြုမည်ဖြစ်ကြောင်း ပြောကြားလာပါသည်။ ဤပမာဏကိုပေးဆောင်ရန် ကျွန်မ မတတ်စွမ်းနိုင်ပါ။ ထို့ကြောင့် ကိုယ်တော့်ထံပါး ဤလျှောက်ထားချက်အားဖြင့် အခစားဝင်ရောက်လာခြင်းဖြစ်ပါသည်။” ...

ဤစကားများကို မည်သူကပြောကြားခဲ့သနည်း။ မည်သည့်အချိန်၊ မည်သည့် အခြေအနေမျိုးတွင် ပြောကြားခဲ့သနည်း စသည်တို့ကို နားလည် သဘောပေါက်ရန် ဟစ်ဂျ်ရီ (၅)ခုနှစ်တွင် ဖြစ်ပွားခဲ့သော မုရိုင်စီးအ် စစ်ပွဲ၏ နောက်ခံသမိုင်းများကို လေ့လာမှ ရပါမည်။

မဒီနာရွှေမြို့တော်နှင့် (၉)စခန်းအကွာ ပင်လယ်နီကမ်းခြေနှင့် ရာဗိဂ်နှင့် ဂျိဒ္ဒဟ်ကြားတွင် ကဒီးဒ်အမည်ရှိ ဒေသရှိနေသည်။ ထိုဒေသတွင်ခိုဇာအဟ်မျိုးနွယ်၏ မျိုးစိတ်တစ်ခုဖြစ်သော ဗနူမွတ်စ်သွလိက်တို့

နေထိုင်ကြသည်။ ၎င်းတို့ပိုင်ဆိုင်သော စမ်းအမည်မှာ မိုရိုင်စီးအ်ဖြစ်သည်။ ဤမျိုးနွယ်စု၏ ခေါင်းဆောင်အမည်မှာ ဟာရိဆ်ဗင်န် အဗီသေွ့ ရား၏ဖြစ်သည်။

ထိုအချိန် ကိုယ်တော်မြတ် ﷺကလည်း မဒီနာရွှေမြို့တော်တွင် အစ္စလာမ့်အင်ပါယာ တည်ထောင်ထားပြီးဖြစ်သည်။ မဒီနာရွှေမြို့တော် အနီးရှိ မျိုးနွယ်စုများနှင့်လည်း ချစ်ကြည်ရေး ပဋိညာဉ်ချုပ်ဆိုထားသည်။ သို့သော် ကိုရိုင်ရှ်တို့သည် ကိုယ်တော်မြတ်ﷺနှင့်ဆန့်ကျင်ပြီး များစွာသော လူမျိုးစုတို့ကို လိုက်လံလှုံ့ဆော်ကာ ဖျားယောင်းသွေးဆောင်နေခဲ့သည်။ ဤသို့ သွေးဆောင်မှု ကျော့ကွင်းတွင် ဗနူမွတ်စ်သွလိက်တို့လည်း အပါအဝင်ဖြစ်သည်။ ၎င်းတို့သည် ကိုယ်တော်မြတ်ﷺနှင့် ဆန့်ကျင်ကာ စစ်ရေး အသင့်ပြင်မှုများ လုပ်ဆောင်နေခဲ့သည်။ ဤသတင်းကို ကိုယ်တော်မြတ် ﷺကြား ကြားချင်ပင် ဗိုင်ဒ်ဗင်န် ခိုစ္စိုင်းဗ် رَضِيَ اللَّهُ عَنْهُသခင်အား အခြေအနေမှန် စုံစမ်းထောက်လှမ်းရန် ထိုဒေသို့ စေလွှတ်ခဲ့သည်။ သခင်ကြီးက စုံစမ်းပြီးနောက် ဤသတင်းမှာ မှန်ကန်ကြောင်း အတည်ပြုခဲ့သည်။

ကိုယ်တော်မြတ်ﷺသည် တစ်ခွင်ကမ္ဘာ ကရုဏာပွားသူပီပီ သွေးမြေခခြင်း၊ သွေးချောင်းစီးခြင်းမျိုး မဖြစ်စေဘဲ အေးချမ်းစွာဖြင့် ပြဿနာ ပြီးဆုံးရန်သာ ဦးတည်ခဲ့သည်။

ဟစ်ဂျ်ရီ (၂)ခုနှစ်၊ ရှအ်ဗာန်လ(၂)ရက်နေ့တွင် ကိုယ်တော်မြတ်ﷺသည် မုဂျာဟိဒ်ဆွဟာဗာ တစ်ထောင်ဖြင့် ၎င်းတို့ထံသို့ ချီတက်သွားခဲ့သည်။ ဆွဟာဗာအပေါင်းတို့၏ပိရိစွာ ချီတက်မှုကြောင့် ဗနူမွတ်စ်သွလိက်တို့မှာ မသိရှိလိုက်ရပါ။ ကိုယ်တော်မြတ်ﷺနှင့်ဆွဟာဗာ رَضِيَ اللَّهُ عَنْهُمْ

အပေါင်းတို့က ၎င်းတို့အား ဝိုင်းရံထားလိုက်သည်။ ၎င်းတို့ကလည်း မျှား မိုးများရွာခဲ့သည်။ မတတ်သာသည့်အဆုံး ကိုယ်တော်မြတ်ﷺရှေ့တွင် ဒူး ထောက်လက်နက်ချခဲ့သည်။

၎င်းတို့၏ ဥစ္စာများအားလုံး သုံ့ပမ်းအဖြစ် သိမ်းပိုက်ခံခဲ့ရသည်။ ထိုအထဲတွင် ကုလားအုတ် အကောင် (၂၀၀၀)၊ ဆိတ်အကောင်(၅၀၀၀)၊ လူဦးရေ (၆၀၀)သို့(၈၀၀)ဖမ်းဆီးခံခဲ့ရသည်။ ဤစစ်ပွဲတွင် မွတ်စ်လင်မ် တို့ဘက်မှ ဟေ့ရှားမ်ဗင်န်ဆွဗာဗား رَضِيَ اللَّهُ عَنْهُ ရှဟီးဒ်ဖြစ်ခဲ့သည်။

## စစ်ရှုံးခေါင်းဆောင်၏ သမီးတော်

ဗနူမွတ်စ်သွလိက်၏ သုံ့ပမ်းထဲတွင် ခေါင်းဆောင် ဟာရိဆ်၏ သမီး အသက်(၂၀)အရွယ် ဗရ်ရဟ်လည်း ပါဝင်ခဲ့သည်။ ပြိုင်စံရှား အလှ ဘုရင်မလည်းဖြစ်ခဲ့သည်။ ဤစစ်ပွဲတွင် အသတ်ခံရသူ မုစာဖိဟ်ဗင်န် ဆွဖ်ဝါန်နှင့်အိမ်ထောင်ကျခဲ့သည်။

သုံးပမ်းများခွဲဝေချိန် သူမသည် ဆာဗိသ်ဗင်န်ကိုင်စ် အလ်အန် ဆွာရီرَضِيَ اللَّهُ عَنْهُသခင့်ထံပါးသို့ ရောက်ရှိခဲ့သည်။ သူကမကလည်း လျော် ကြေးယူပြီး သူကောင်းပြုပေးရန် သတ်မှတ်ခဲ့သည်။ သခင်က (ငွေဒင်္ဂါး ၄၀၀၀)သတ်မှတ်လိုက်သည်။

သခင်မ၏နှလုံးသားထဲတွင် လွန်ခဲ့သည့် နှစ်ပေါင်းများစွာ ကတည်းက အစ္စလာမ့်အလှတရားများ ကိန်းဝပ်နေပြီးဖြစ်သည်။ ထို့ကြောင့် အစ္စလာမ်သာသနာကို လက်ခံလိုက်သည်။ ထို့နောက် ကိုယ်တော်မြတ်ﷺထံ အခစားဝင်ပြီး "ကျွန်မသည် အစ္စလာမ်လက်ခံ လိုက်ပါပြီ။ ဆာဗိသ်သခင်၏ ကျွန်မအဖြစ်နှင့်နေခြင်းမှာ ကျွန်မအတွက်

သိက္ခာကျဖွယ်ရာဖြစ်ပါသည်။ ထို့ကြောင့် လျှော်ကြေးပေးပြီး ဤအခြေ အနေမှ ရုန်းထွက်လိုပါသည်။ ဤပမာဏလျှော်ကြေးအား ပေးဆောင် ရန် ကျွန်မ မတတ်စွမ်းနိုင်ပါ။ ကိုယ်တော်မြတ်ﷺကူညီ ပေးသနား တော်မူပါ" ဟု လျှောက်ထားခဲ့သည်။

ကိုယ်တော်မြတ်ﷺသည် သခင်မအတွက် လျှော်ကြေးပေး ဆောင်ပြီးနောက် ၊ သူကောင်းလည်း ပြုပေးလိုက်သည်။ ထို့နောက် ကြင်ယာတော်လည်း မြှောက်ပေးလိုက်သည်။ မဟရ် (ခန်းဝင်ကြေး အဖြစ်) ငွေဒင်္ဂါး(၄၀၀)ကျော် ချီးမြှင့်ခဲ့သည်။ ထို့နောက် ဗရ်ရဟ်(ခြောက် ပြစ်ကင်းသဲလဲစင်သူမ)ဟူသော အမည်အား ဂျိုဝိုင်ရိယဟ်ဟု အမည် ပြောင်းပေးလိုက်သည်။

## ဤလက်ထပ် ထိမ်းမြားမှု၏ အစ္စလာမ့်ပတ်ဝန်းကျင်ပေါ် သက်ရောက်မှု

ကိုယ်တော်မြတ် ﷺသည် ဂျိုဝိုင်ရိယဟ်သခင်မနှင့်ထိမ်းမြား လိုက်ပြီဟူသော သတင်းကို ကြားသည်နှင့် တစ်ပြိုင်နက် မဒီနာရှိ မွတ်စ်လင်မ်အပေါင်းတို့သည် မိမိတို့ လက်ဝယ်ပိုင်ဆိုင်ထားသော ဗနူ မွတ်စ်သွလိက်မျိုးနွယ်ဝင် သုံ့ပမ်းတို့သည် ငါတို့နဗီ၏ ဆွေးမျိုးများ ဖြစ်သွားကြပြီဟု ဆိုကာ သူကောင်းပြုပေးလိုက်ကြသည်။

ဤအဖြစ်အပျက်ကိုကြည့်ပြီး အာအေ့ရှာ رَضِيَ ٱللَّهُ عَنْهَاသခင်မကြီးက " ဂျိုဝိုင်ရိယဟ်သခင်မကဲ့သို့ ကိုယ့်အမျိုးသားများအတွက် မင်္ဂလာ အကြောင်းခံဖြစ်သူမမျိုး ကျွန်မ မတွေ့ဖူးပါ။" ဟု ပြောကြားခဲ့သည်။

## ဟာရီဆ်ဗင်န်အဗီသေ့ရ်ရားရ်၏ ဖြစ်ရပ်

ခေါင်းဆောင်ဟာရိဆ်ထံ သမီးတော် ဖမ်းဆီးခံရသည့်သတင်း ရောက်ရှိသောအခါ ၎င်းက ကျန်ရှိနေသည့် သားနှစ်ဦးကို ခေါ်ဆောင်ကာ ကုလားအုတ်များပေါ်တွင် ပစ္စည်းအပြည့်တင်ဆောင်ပြီး မဒီနာသို့ လာခဲ့သည်။ မဒီနာလာရာလမ်းရှိ အကီးက်လျှိုမြောင်တွင် အဖိုးတန် ကုလားအုတ်နှစ်ကောင်ကို ဖွက်ခဲ့လိုက်သည်။

ထို့နောက် ကိုယ်တော်မြတ်ﷺထံ အခစားဝင်ပြီး ပါသမျှ ကုလားအုတ်များကို ယူလိုက်ပြီး သမီးအား လွှတ်ပေးရန်တောင်းဆို လျှောက်ထားခဲ့သည်။ ကိုယ်တော်မြတ်ﷺက “အကီးက်လျှိုမြောင်တွင် ဖွက်ထားသည့် ကုလားအုတ်နှစ်ကောင်ဘယ်လိုလဲ”ဟု မေးမြန်းလိုက်ရာ အံ့သြသွားခဲ့ပြီး ကလိမဟ် ရှဟာဒသ်ကို ဖတ်ရွတ်လိုက်သည်။ ၎င်း၏သားနှစ်ဦးနှင့်နောက်လိုက်အများအပြားကလည်း အစ္စလာမ်လက်ခံခဲ့ကြသည်။

မိခင်မွန် ဂျူဝိုင်ရီယဟ်رَضِيَ اللَّهُ عَنْهَاသခင်မကြီးသည် ဘဝ၏နှစ်ပေါင်း (၂၀)ကို စည်းစိမ်အပြည့်၊ လိုတရအခြေအနေဖြင့် ကုန်ဆုံးခဲ့သော်လည်း မုအ်မင်န်တို့၏ မိခင်မွန်ဖြစ်သွားပြီးနောက် အရာရာကို ပြောင်းလဲကာ နေထိုင်ခဲ့ရှာသည်။ မိမိအရင်ရှိ နမ့်ကြွင်ယာတော်များကိုလည်း ဂုဏ်ပေး လေးစားခဲ့သည်။

အရှင်မြတ်၏ အေဗာဒသ်ကိုလည်း အထူးကရုတစိုက်ပြုလုပ်ခဲ့သည်။ တစ်ရက်ကိုယ်တော်မြတ်ﷺသည် ဂျူဝိုက်ရီယဟ် သခင်မ၏အိမ်တော်မှ ဖဂျရ်နမားဇ်ဝတ်ပြုရန် ထွက်ခွာသွားခဲ့သည်။ ထိုအချိန်သခင်မသည် ဂျာနမားဇ်ပေါ်တွင် ထိုင်လျက်ရှိနေသည်။ ကျားရှ်သ်(နေတက်ချိန်

နမားဇ်)ဝတ်ပြုပြီးမှ ကိုယ်တော်မြတ်ﷺ ကြွမြန်းလာရာ သခင်မသည် ဂျာနမားဇ်ပေါ်တွင်သာ ထိုင်လျက်ရှိနေခဲ့သည်။ ဤသည်ကို တွေ့မြင်ပြီး ကိုယ်တော်မြတ်ﷺက "နံနက်အစော ဤနေရာမှ ငါသွားချိန် စကားလုံး လေးခုအား ဖတ်ရွတ်လိုက်သည်။ ထို(၄)ခွန်းသည် အသင်မ ဤကာလ တွင် ဖတ်ရွတ်နေမှုထက် ပိုမို ဆဝါးဗ်ကြီးမားသည်။

سُبحانَ اللهِ وبحَمْدِه عَدَدَ خَلْقِه، ورِضا نَفْسِه، وزِنةَ عَرْشِه، ومِدادَ كَلِماتِه

သခင်မကြီးသည် နဖိလ်ရိုဇာများကိုလည်း ကရုတစိုက် ထားတော်မူခဲ့ သည်။ ဂျုံ့မိုအဟ်နေ့တွင် သခင်မသည် ရိုဇာထားသည်။ ဒုတိယ ဂျုံမို့ အဟ်နေ့တွင်လည်း ရိုဇာထားရာ ကိုယ်တော်မြတ်ﷺက ဂျုံ့မိုအဟ်နေ့ တစ်ရက်တည်းကိုသာ သတ်မှတ်ကာ ရိုဇာထားခြင်းကို မနှစ်မြို့ကြောင်း မိန့်ကြားခဲ့သည်။

တစ်ရက်ကိုယ်တော်မြတ်ﷺသည် သခင်မအိမ်သို့ ကြွမြန်းလာ ပြီး စားစရာတစ်စုံတရာရှိပါသလား။ ဟု မေးမြန်းခဲ့ရာ သခင်မကြီးက "ကျွန်မ၏ကျွန်မပေးထားသော ဆွဒကဟ်အသားသာရှိကြောင်း ဖြေ ကြားခဲ့သည်။ ကိုယ်တော်မြတ်ﷺက " ဆွဒကဟ်သည်သူ့ပိုင်ရှင်ဆီ ရောက်ရှိခဲ့ပြီးဖြစ်သည်။ ယခုဆွဒကဟ်မဟုတ်တော့ပါ။ အဲ့ဒါပဲ ယူခဲ့ပါ" ဟု မိန့်ကြားလိုက်သည်။

မိခင်မွန် ဂျုံ့ဝိုင်ရိယဟ် ဆင့်ပြန်ခဲ့သည့် ဟဒီးဆ်တော်များမှာ လည်း အလွန်ပင် အရေးပါလှသည်။ အိဗ်နေ့အိုမရ်رَضِيَ ٱللَّٰهُ عَنْهُ၊ အိဗ်နေ့ အဗ္ဗါးစ်رَضِيَ ٱللَّٰهُ عَنْهُ၊ဂျာဗိရ်رَضِيَ ٱللَّٰهُ عَنْهُတို့သည် သခင်မကြီးထံမှ ဟဒီးဆ်တော် များ ဆင့်ပြန်ခဲ့ကြကြောင်း သိရှိရသည်။

သခင်မ၏ မောင်နှမများအားလုံးတို့သည် အစ္စလာမ်လက်ခံခဲ့သည်။ ၎င်းတို့အနက် မအရ်ရှဟ်ဗင်န်ဟာရိဆ်رَضِيَ ٱللَّٰهُ عَنْهُသည် ကိုယ်တော်ﷺကွယ်လွန်ချိန် အဖြူရောင်လားတစ်ကောင်၊ လက်နက်အချို့နှင့် အွမ့်သ်အတွက် ဆွဒကဟ်ပြုခဲ့လိုက်သောမြေကြီးမှအပ အခြားမည်သည့် ပိုင်ဆိုင်မှုမှ မထားခဲ့ဟူသော ဟဒီးဆ်တော်ကို ဆင့်ပြန်ခဲ့သည်။

ဤနည်းအတိုင်းပင် သခင်မ၏ ညီမတစ်ဦးဖြစ်သော အမ်ရှဟ်ဗင်န်သေ့ဟာရိဆ် رَضِيَ ٱللَّٰهُ عَنْهَاကလည်း “လောကကြီးသည် အပေါ်ယံကြည့်လိုက်ပါက ချိုမြိန်ပြီး သာယာစိုပြေနေသည်” ဟူသော ဟဒီးဆ်တော်ကို ဆင့်ပြန်ခဲ့သည်။

## သခင်မ ကွယ်လွန်တော်မူခြင်း

မိခင်မွန် ဂျိုဝိုင်ရိယဟ် رَضِيَ ٱللَّٰهُ عَنْهَاသခင်မသည် ကိုယ်တော်မြတ်ﷺ ဝဖားသ်ဖြစ်ပြီးနောက်ပိုင်း နှစ်ပေါင်း(၄၀)တိတိ ရှင်သန်နေထိုင်ခဲ့သည်။

သက်တော်(၆၅)နှစ် ဟစ်ဂျ်ရီ (၅၀)ခုနှစ်တွင် အရှင့်အမိန့်တော်ခံယူတော်မူခဲ့သည်။

သခင်မ၏ ဂျနာဇာနမားဇ်အား မဒီနာဘုရင်ခံ မရ်ဝါးန်ဗင်န်ဟကမ်က ဖတ်ပေးခဲ့ပြီး ဗကီးအ်သင်္ချိုင်းတော်တွင် မြှုတ်နှံခံခဲ့ရသည်။

## မိခင်မွန် ဂျုဝိုင်ရီယဟ် رَضِيَ اللَّهُ عَنْهَا ၏ ဘဝမှ သင်ခန်းစာများ

၁။ ပြိုင်စံရှား ထက်မြက်လှသည့် ဉာဏ်ရည်ကို ပိုင်ဆိုင်ထားခြင်း။

၂။ အမှန်တရားဘက်မှ အမြဲထာဝရရပ်တည်နိုင်ခြင်း။

၃။ သဘောထားကြီးမားခြင်း၊ အာဂတများ ကင်းဝေးခြင်း။

၄။ နဗီတမန်တော်မြတ် ﷺ ကို နှစ်နှစ်ကာကာ ချစ်မြတ်နိုးခြင်း။

၅။ တစ်နွယ်ငင်တစ်စင်ပါ၊ သစ်တစ်ပင်ကောင်း ငှက်တစ်သောင်းနား၍ရ ဟူသော စကားပုံများအတိုင်း လူအများကို အကျိုးပြုနိုင်ခဲ့ခြင်း။

၆။ အေဗာဒသ်ကိုလည်း စံချိန်တင် ဝတ်ပြုနိုင်ခဲ့ခြင်း။

၇။ ရိုကျိုးမှုအပြည့်ရှိပြီး၊ မိမိထက်ကြီးသူများကို ရိုသေကာ ဂုဏ်ပေးလေးစားခြင်း။

## (၉) မိခင်မွန်အွမ္မေ့ ဟဘီဘာ رَضِيَ ٱللَّهُ عَنْهَا နှင့် တဒင်္ဂ

## အရှင်မြတ်အတွက်၊ သာသနာတော်အတွက် ဇာတိမြေကို စွန့်ခွာခြင်း၏ ဒုက္ခများကို ခါးစည်းခံခဲ့သည့် အမျိုးသမီး၊ အီမာန့်ဂုဏ်၊ သာသနာ့ဂုဏ်ကို အသက်ထက်ဆုံး ထိန်းသိမ်းနိုင်ခဲ့သည့် မိခင်မွန်။

အမည် - ရမ်လဟ် ဗင်န်သေ့ အဗီစွတ်ဖ်ယာ်းန်

မျိုးရိုးစဉ်ဆက် -

رملة بنت أبو سفيان صخر بن حرب بن أمية بن عبد شمس بن عبد مناف بن قصي بن كلاب بن مرّة بن كعب بن لؤي بن غالب بن فهر ابن مالك بن النضر) قريش بن كنانة بن خزيمة بن مدركة بن إلياس ابن مضر بن نزار بن معد بن عدنان.

ဂုဏ်ထူးဆောင်အမည်- အွမ္မေ့ဟဘီဘား

ဘွဲ့ထူး - မုအ်မင်န်တို့၏ မိခင်မွန်

ဖခင် - အဗူစွတ်ဖ်ယာ်းန်

မိခင် - ဆွဖီယဟ် ဗင်န်သေ့ အဗီလ်အားစွ်

မွေးချင်းမောင်နှမ - မိုအာဝေ့ယဟ် رَضِيَ ٱللَّهُ عَنْهُ၊ ယဇီးဒ်ဗင်န်အဗူစွဖ်ယာ်းန်၊ အန်ဗစဟ်၊ ဟန်ဇွလဟ်၊ အမ်ရ် ဗင်န် အဗီစွဖ်ယာ်းန်

ယခင်အိမ်ထောင်ဆက် - အိုဗိုင်ဒွလ္လာဟ် ဗင်န် ဂျဟရှ်

သားသမီး - ဟဘီဘား

ဖွားမြင်ခြင်း - ဟစ်ဂျ်ရည် မတိုင်မီ (၃၅)နှစ်=၅၈၉ခုနှစ်

ဖွားမြင်သည့်နေရာ - မက္ကာရွှေမြို့တော်

ကွယ်လွန်တော်မူခြင်း - ဟစ်ဂျ်ရီ (၄၄)ခု=၆၆၄ခုနှစ်

ကွယ်လွန်သည့် နေရာ - မဒီနာရွှေမြို့တော် ၊ ဂျန္နသုလ်ဗကီးအ်

ဆင့်ပြန်ခဲ့သည့် ဟဒီးဆ်တော်ပေါင်း - ၆၅ ပုဒ်

ကိုယ်တော်မြတ် صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَ နှင့် နေထိုင်ခွင့်ရခဲ့သည့် ကာလ -

## မိခင်မွန် အွမ္မေ့ ဟဘီဘား ﵂သခင်မ၏ အတ္ထုပ္ပတ္တိအကျယ်

မိခင်မွန် အွမ္မေ့ ဟဘီဘား ﵂သခင်မကြီးသည် ကိုယ်တော်မြတ် ﷺ ၏ နဝမမြောက် ကြင်ယာတော်ဖြစ်သည်။

ဆင်နှစ်အပြီး (၂၃)တွင် ကိုရိုင်ရှ်မျိုးနွယ်၊ ဗနူအိုမိုင်ယဟ် မျိုးစိတ်မှ အဗူစွဖ်ယားန်နှင့် ဆွဖီယဟ်တို့မှ ဖွားမြင်ခဲ့သည်။ ထိုစဉ်အခါက သမီးမိန်းကလေး မွေးဖွားခြင်းသည် မျက်နှာပျက်ဖွယ်ရာဖြစ်သော်လည်း ဤသမီးငယ်လေး၏ အလှ၊ ဆွဲဆောင်မှုတို့က အဗူစွဖ်ယားန်ကို ပျော်ရွှင်စေခဲ့သည်။

ဤသို့ဖြင့် အရွယ်ရောက်လာသောအခါ ဗနူအိုမိုင်ယဟ်တို့၏ မဟာမိတ်အုပ်စု ဗနူဂနမ်မှ အိုဗိုင်ဒွလ္လာဟ်ဗင်န်ဂျဟာရှ်နှင့် လက်ထပ်ထိမ်းမြားစေခဲ့သည်။ ဟဘီဘားအမည်ရှိ သမီးရတနာတစ်ပါး ထွန်းကားခဲ့သည်။

(၁၇)နှစ်သမီးအရွယ်တွင် အစ္စလာမ် လက်ခံခဲ့သည်။ မြတ်ကိုယ်တော် နဗူဝသ်ရရှိပြီး (၃)နှစ်အကြာက ဖြစ်သည်။ သခင်မနှင့်အတူ ခင်ပွန်းသည်ကလည်း အစ္စလာမ် လက်ခံလိုက်သည်။ ထိုအချိန် အစ္စလာမ်လက်ခံသူ(၁၃၃)ဦးသာ ရှိသေးသည်။

ကနဦးပိုင်း အစ္စလာမ်လက်ခံခဲ့သည့် မုအ်မင်န်အမျိုးသား၊ အမျိုးသမီးဆွဟာဗာအပေါင်းတို့ကို ကိုရိုင်ရှ်တို့က အမျိုးမျိုး ဒုက္ခပေးခဲ့ကြသည်။ ၎င်းတို့၏ အသက်၊အိုးအိမ်၊စည်းစိမ်၊ သိက္ခာတို့မှာ လုံခြုံမှု မရှိတော့သည့်အတွက် ကိုယ်တော်မြတ်ﷺက ၎င်းတို့အား အီသီယိုးပီးယားသို့ ဟစ်ဂျ်ရသ်ပြုရန် အမိန့်ပေးခဲ့သည်။

## လမင်း၏ ကြယ်စင်များ

ထို့ကြောင့် သခင်မကြီးတို့ဇနီးမောင်နှံနှင့်အတူ အွတ်ဆ်မာန် رَضِيَ اللَّهُ عَنْهُကဲ့သို့ ဒိတ်ဒိတ်ကြဲ ဆွဟာဗီကြီးများလည်း ပါဝင်ခဲ့သည်။ အလ္လာမဟ်အိမ်နေ့ ဟော့ရှားမ်رَحِمَهُ اللَّهُက မိမိ၏ စီရသ်ကျမ်းတွင် ထိုမုဟာဂျိရ်အပေါင်းတို့၏ စာရင်းကို မျိုးနွယ်များအလိုက် အောက်ပါအတိုင်း ပြုစုထားသည်။

| အမှတ်စဉ် | မျိုးနွယ်အမည် | ဟစ်ဂျ်ရသ်တွင် ပါဝင်သည့် အရေအတွက် |
|---|---|---|
| ၁ | ဗနူဟာရှင်မ် | (၂)ဦး |
| ၂ | ဗနူအိုမိုင်ယဟ် | (၆)ဦး |
| ၃ | ဗနူအိုမိုင်ယဟ်၏မဟာမိတ်မျိုးနွယ် | (၆)ဦး |
| ၄ | ဗနူ အဗ်ဒေ့ရှမ်စ် | (၁)ဦး |
| ၅ | ဗနူ အဆဒ် | (၄)ဦး |
| ၆ | ဗနူ အဗ်ဒ်ဗင်န် ကိုဆွိုယ် | (၁)ဦး |
| ၇ | ဗနူ အဗ်ဒ် ဒါးရ် | (၈)ဦး |
| ၈ | ဗနူ ဇုဟ်ရဟ် | (၄)ဦး |
| ၉ | ဗနူ ဇုဟ်ရဟ် မဟာမိတ် | (၃)ဦး |
| ၁၀ | ဗနူ သမီးမ် | (၃)ဦး |
| ၁၁ | ဗနူ မခ်ဇူးမ် | (၈)ဦး |
| ၁၂ | ဗနူ မခ်ဇူးမ်တို့၏ မဟာမိတ်မျိုးနွယ် | (၁)ဦး |
| ၁၃ | ဗနူ ဂျုမဟ် | (၁၆)ဦး |
| ၁၄ | ဗနူ စဟ်မ် | (၁၃)ဦး |

| ၁၅ | ဗနူ အဒီ | (၄)ဦး |
|---|---|---|
| ၁၆ | ဗနူ အဒီတို့၏ မဟာမိတ် မျိုးနွယ် | (၁)ဦး |
| ၁၇ | ဗနူအာမိရ်ဗင်န် လိုအိုက်ယ် | (၁၀)ဦး |
| ၁၈ | ဗနူအာမိရ်တို့၏ မဟာမိတ်မျိုးနွယ် | (၁)ဦး |
| ၁၉ | ဗနူဟာရိဆ်ဗင်န် ဖစ်ဟ်ရ် | (၈)ဦး |

**အီသီယိုးပီးယားသို့ အွမ္မေ့ဟာဘီဘား رَضِيَ اللَّهُ عَنْهَا ဟစ်ဂျ်ရသ်ပြု သွားခြင်း၏ အကျိုးသက်ရောက်ပုံ**

မက္ကဟ်ရွှေမြို့တော်တွင် ကိုရိုင်ရှ်တို့က အုပ်ချုပ်ရေး၊ အချုပ်အခြာအာဏာတည်တံ့ခိုင်မြဲရေးအတွက် အောက်ပါအတိုင်း ရာထူးတာဝန်များကို ခွဲဝေခန့်အပ်ထားသည်။ ကိစ္စရပ်အသီးသီးကို မျိုးနွယ်စုတိုင်းမှ တာဝန်ခံတစ်ဦး(သို့) တစ်ဖွဲ့ကို တာဝန်ပေးအပ်ထားသည်။

| စဉ် | လုပ်ဆောင်ရမည့် ကဏ္ဍ | တာဝန်ခံ | မျိုးနွယ် |
|---|---|---|---|
| ၁ | သံတမန်ရေးရာ | အုမရ်ဗင်န် ခသ်သွားဗ် رَضِيَ اللَّهُ عَنْهُ | ဗနူ အဒီ |
| ၂ | လူသတ်မှုဆိုင်ရာအမှုအခင်း ဆုံဖြတ်ချက် ချခြင်း | အဗူ ဗက်ရ် رَضِيَ اللَّهُ عَنْهُ | ဗနူ သမီးမ် |
| ၃ | ဘဏ္ဍာရေးဆိုင်ရာ | ဟာရိဆ်ဗင်န် ကိုင်စ် | ဗနူစဟ်မ် |
| ၄ | ကအ်ဗဟ်ကျောင်းတော်၏ သော့ကိုင်ခြင်းနှင့်တာဝန်ယူခြင်း | အွဆ်မားန်ဗင်န်သွလ်ဟာ رَضِيَ اللَّهُ عَنْهُ | ဗနူ ရှိုင်ဗဟ် |

| | | | |
|---|---|---|---|
| ၅ | ဟာဂျီအပေါင်းတို့ကို ရေတိုက်ကျွေးခြင်း | အဗ္ဗါးစ် رَضِيَ اللَّهُ عَنْهُ | ဗနူ ဟာရှင်မ် |
| ၆ | စစ်တပ်ရေးရာ စီမံကွပ်ကဲခြင်း | ဝလီးဒ်ဗင်န်မိုဂီရဟ် رَضِيَ اللَّهُ عَنْهُ | ဗနူမခ် ဇူးမ် |
| ၇ | ကိုရိုင်ရှ်စစ်တပ်၏ ကာကွယ်ရေး၊ အောင်လံကိုင်ဆောင်ခြင်းနှင့် ပွဲကိုင်ခြင်း | အဗူစွတ်ဖ်ယားန်ဗင်န် ဟရ်ဗ် رَضِيَ اللَّهُ عَنْهُ | ဗနူ အိုမိုင် ယဟ် |

ဤဇယားအရ အဗူစွတ်ဖ်ယားန်သည် ကာကွယ်ရေးဝန်ကြီးချုပ် အဆင့်ရှိသည်။ ၎င်း၏သမီးဖြစ်သူ အွမ္မေ့ဟာဘီဘားرَضِيَ اللَّهُ عَنْهَا၏ အစ္စလာမ် လက်ခံခြင်းသည် ၎င်းအတွက် မျက်နှာပျက်ဖွယ်ရာ ဖြစ်သော်လည်း အခြားသူများအစ္စလာမ် လက်ခံရေးအတွက် အားဆေးတစ်ခွက်ဖြစ်ခဲ့ သည်။ ထို့နောက် သခင်မကြီးသည် ဟစ်ဂျ်ရသ်ပြုရာတွင်လည်း မျိုးနွယ် (၁၉)စုမှ အမျိုးသားအမျိုးသမီးများနှင့်အတူ ပါဝင်ခဲ့သည်။

ထိုအချိန် မျိုးနွယ်အချို့မှ ပုဂ္ဂိုလ်တို့သည်လည်း အစ္စလာမ်နှင့် မွတ်စ်လင်မ်တို့အပေါ် အစကထက်ပင် ပိုမို၍ ရန်ညှိုးထား လာကြတော့ သည်။ ၎င်းတို့မှာ

၁။ အဗူလဟဗ် ဗနူဟာရှင်မ်

၂။ အဗူစွတ်ဖ်ယားန် ဗနူအိုမိုင်ယဟ်

၃။ အွသ်ဗားဗင်န် ရဗီအဟ် ဗနူ အဗ်ဒွေရှမ်စ်

| | | |
|---|---|---|
| ၄။ | အဗူလ် ဗုခ်သရီ | ဗနူ အဆဒ် |
| ၅။ | နသ္ဖ်ရ်ဗင်န် ဟာရီဆ် | ဗနူ အဗ်ဒ္ဒေဒါးရ် |
| ၆။ | အတ်စ်ဝဒ် ဗင်န်ယဂူးဆ် | ဗနူ ဇုဟ်ရဟ် |
| ၇။ | အဗူ ဂျဟလ် | ဗနူမခ်ဇူးမ် |
| ၈။ | အိုမိုင်ယဟ်ဗင်န်ခလဖ် | ဗနူ ဂျုံမဟ် |
| ၉။ | အိုမရ်ဗင်န် ခသ်သွားဗ် | ဗနူ အဒီ တို့ဖြစ်ကြသည်။ |

## ဟဗ်ရှာ(အီသီယိုးပီးယား)နိုင်ငံနှင့် ကိုရိုင်ရှ်မျိုးနွယ်ဝင်များ

ဟဗ်ရှာသည် အရဗ်တို့၏ကုန်သွယ်ရာ နိုင်ငံဖြစ်သည့် အလျောက် ယခင်ကတည်းက ခိုင်မာသော အဆက်အသွယ်ရှိထားသည်။ ထို့ကြောင့် ဟစ်ဂျ်ရသ်ပြုသည့် မုအ်မင်န်တို့သည်လည်း ဟဗ်ရှာတွင် လွတ်လပ်စွာဖြင့် အရှင်မြတ်အား ခဝပ်ကိုးကွယ်နိုင်ခဲ့ကြသည်။ ၎င်းတို့အား မည်သူမှ ဒုက္ခပေးရန် ဝေးစွ၊ မော်၍ပင် မကြည့်ရဲကြပေ။

## အွမ္မေ့ဟဘီဘာ رَضِيَ ٱللَّٰهُ عَنْهَا သခင်မအတွက် စမ်းသပ်မှုကြီးတစ်ရပ်

အွမ္မေ့ဟဘီဘာ رَضِيَ ٱللَّٰهُ عَنْهَا သခင်မအတွက် ဤလွတ်လပ်မှု၊ စိတ်အေးချမ်းသာယာမှုသည့် အခွန့်မရှည်ခဲ့ပါ။ သခင်မ၏ ခင်ပွန်းဖြစ်သူ အိုဗိုင်ဒွလ္လာဟ်သည် ဟဗ်ရှာရှိ ခရစ်ယာန်များ၊ အရက်သမားများနှင့် မိတ်ဆွေဖြစ်ပြီး အဆုံးတွင် ခရစ်ယာန်ဘာသာကို လက်ခံလိုက်သည်။ သခင်မက အကြိမ်ကြိမ်နားချခဲ့သော်လည်း မထူးခြားခဲ့။ အရက်အလွန်အကျွံသောက်သောကြောင့် အဆုံးတွင်သေဆုံးသွားခဲ့သည်။

ဤကြေကွဲဖွယ်ဖြစ်ရပ်သည် သခင်မအတွက် နာကျင်စရာဖြစ်ခဲ့သည်။ သခင်မတို့နှင့်အတူ ဟစ်ဂျ်ရသ်ပြုခဲ့ကြသော ခဲအိုဖြစ်သူ အဗ်ဒွလ္လာဟ်ဗင်ဂျဟရှ်رَضِيَ ٱللَّٰهُ عَنْهُသခင်၊ ဝမ်းကွဲနောင်တော် အွတ်ဆ်မားန် رَضِيَ ٱللَّٰهُ عَنْهُ သခင်တို့သည်လည်း မက္ကာဟ်သို့ ပြန်သွားခဲ့ပြီဖြစ်သည်။

## တစ်ခွင်ကမ္ဘာကရှုဏာပွားသော မြတ်ကိုယ်တော် صَلَّىٰ ٱللَّٰهُ عَلَيْهِ وَسَلَّمَ အရိပ်

အွမ္မေ့ဟဘီဘာသခင်မ၏ ဤဖြစ်ရပ်အား မြတ်ကိုယ်တော် صَلَّىٰ ٱللَّٰهُ عَلَيْهِ وَسَلَّمَသည်လည်း အစ၊အဆုံး သိရှိထားပြီးဖြစ်သည်။ ထို့ကြောင့် သခင်မကြီး၏ အိဒ္ဒသ်ကာလ ကုန်ဆုံးသွားသောအခါ ကိုယ်တော် ﷺ က သာဝကကြီး အမ်ရ်ဗင်န်အိုမိုင်ယဟ်ဇွမ်ရီ رَضِيَ ٱللَّٰهُ عَنْهُသခင်ကို စေလွှတ်ကာ သခင်မအား နေကာပြုရန်ကမ်းလှမ်းခဲ့သည်။

နဂျာရှီဘုရင်ကလည်း နဗီ့သဝဏ်လွှာကို မိမိ၏ အထူးအစေခံ အဗ်ရဟ်အား သခင်မထံ ဆက်သရန် စေလွှတ်ခဲ့သည်။ တိုက်တိုက်ဆိုင်ဆိုင်ဤသဝဏ်လွှာ သခင်မကြီးထံ ရောက်ရှိမလာမီ အိပ်မက်ထဲတွင် တစ်ဦးသောသူက သခင်မကို “အို… မုအ်မင်န်အပေါင်းတို့၏ မိခင်” ဟု ခေါ်နေကြောင်း မြင်မက်ခဲ့သည်။ အဗ်ရဟ်ယူဆောင်လာသော နဗီ့သဝဏ်လွှာသည် သခင်မကြီး၏ အိပ်မက်ကို ပြည့်ဝစေရာ အတိုင်းထက်အလွန်ပျော်ရွှင်သွားခဲ့သည်။ ပျော်ရွှင်ဝမ်းမြောက်လွန်းအားကြီးပြီး မိမိဝတ်ဆင်ထားသမျှ လက်ဝတ်ရတနာများအား အဗ်ရဟ်ကို လက်ဆောင်ပေးလိုက်သည်။

## နေကာဟ်မင်္ဂလာအခမ်းအနား

သခင်မက နဗီ့ကမ်းလှမ်းချက်ကို လက်ခံသည့်သတင်း ကြားသိသောအခါ နဂျာရှီဘုရင်သည် ဤနေကာဟ်ပွဲအား ခမ်းနားစွာ ကျင်းပခဲ့သည်။ ဟဗ်ရှာတွင်မှီတင်းနေထိုင်နေသော ဂျအ်ဖရ်ﷺသခင်နှင့် ဆွဟာဗာအားလုံးတို့အား ဖိတ်ကြားခဲ့သည်။ သခင်မကြီး၏ကိုယ်စားလှယ်အဖြစ် သခင်မ၏ မျိုးနွယ်ဝင်တစ်ဦးဖြစ်သော ခါလိဒ်ဗင်န်စအီးဒ်ဗင်န်အားစ်ﷺက ဆောင်ရွက်ခဲ့သည်။ နဂျာရှီဘုရင်ကြီးကိုယ်တော်နေကာဟ်ဖတ်ပေးခဲ့ပြီး သခင်ကြီးက ကိုယ်တော်မြတ် ﷺ ဘက်မှ မဟာရ်အဖြစ် ရွှေဒင်္ဂါး(၄၀၀)ချီးမြှင့်ခဲ့သည်။ ထို့နောက် ဝလီမာကျွေးမွေးခြင်းသည် နဗီတမန်တော် အပေါင်းတို့၏ စွန္နသ်(လမ်းစဉ်)ဖြစ်ကြောင်း တင်ပြပြီး ခမ်းနားစွာ ဝလီမာကျွေးမွေးခဲ့သည်။

## မဒီနာရွှေမြို့တော်သို့

အမ်ရ်ဗင်န်အိုမိုင်ယဟ်ဇုမ်ရီ ﷺသခင်သည် နေကာဟ်သဝဏ်လွှာ ယူဆောင်လာခြင်းနှင့် အတူ အခြားသော နဗီ့သဝဏ်လွှာတစ်ခုကိုလည်း ယူဆောင်လာခဲ့သည်။ ထိုသဝဏ်လွှာထဲတွင် "ဟဗ်ရှာတွင်မှီတင်းနေထိုင်နေသော မုဟာဂျိရ်ဆွဟာဗာအပေါင်တို့အား မဒီနာမြို့တော်သို့ စနစ်တကျ ပို့ဆောင်ပေးရန်ဖြစ်သည်။ ထို့ကြောင့် နဂျာရှီသည် လှေနှစ်စီး စီစဉ်ခဲ့ပြီး ဂျအ်ဖရ် ﷺ သခင်၏ ဦးဆောင်မှုဖြင့် မဒီနာသို့ စေလွှတ်ခဲ့သည်။ သခင်မကြီးသည်လည်း မိမိ၏ သာသနာ့သားသမီးများနှင့်အတူ လိုက်ပါလာခဲ့သည်။ ရှုရဟ်ဗီးလ်ဗင်န်ဟစနဟ် ﷺ သခင်က အဓိက ကြီးကြပ်ပေးခွင့်ရရှိခဲ့သည်။

ကိုယ်တော်မြတ် ﷺသည် ခိုင်ဗရ်ကိုအောင်နိုင်ချိန် ဟစ်ဂျ်ရီ(၇)ခုနှစ်၊ မုဟာရ်ရမ်လမြတ်တွင် ဟဗ်ရှာမှ ဟစ်ဂျ်ရသ်ပြုလာသော ဆွဟာဗာအပေါင်းတို့သည် မဒီနာသို့ ရောက်ရှိခဲ့ကြသည်။ ကိုယ်တော်မြတ်ﷺ အတွက် ပျော်ရွှင်မှုအပေါ် ပျော်ရွှင်မှု ထပ်သွားခဲ့သည်။

မိခင်မွန် အွမ္မေ့ဟဘီဘား ကိုယ်တော်မြတ် ﷺ ၏ ထံပါးသို့ ရောက်ရှိချိန် ကိုယ်တော့် ထံတော်ပါးတွင်အောက်ပါကြင်ယာတော်များ ရှိနေသည်။

၁။ မိခင်မွန် စောင်ဒဟ် ဗင်န်သေ့ ဇမ်အဟ် رَضِيَ ٱللَّهُ عَنْهَا

၂။ မိခင်မွန် အာအေ့ရှာ رَضِيَ ٱللَّهُ عَنْهَا

၃။ မိခင်မွန် ဟဖ္ဖ်ဆွဟ်رَضِيَ ٱللَّهُ عَنْهَا

၄။ မိခင်မွန် ဇိုင်နဗ် ဗင်န်သေ့ ဂျဟရ်ှ رَضِيَ ٱللَّهُ عَنْهَا

၅။ မိခင်မွန် အွမ္မေ့စလမဟ် رَضِيَ ٱللَّهُ عَنْهَا

၆။ မိခင်မွန် ဂျိုဝိုင်ရိယဟ် رَضِيَ ٱللَّهُ عَنْهَا

၇။ မိခင်မွန် ဆွဖီယဟ် رَضِيَ ٱللَّهُ عَنْهَا

ကိုယ်တော်မြတ် ﷺနှင့် လက်ဆက်ချိန် သခင်မ၏သက်တော်မှာ (၃၇)နှစ်ဖြစ်သည်။ သခင်မကြီး၏ သမီး ဟဘီဘားသည်လည်း အတူလိုက်ပါလာခဲ့သည်။

သခင်မသည် ဉာဏ်အမြော်အမြင်ကြီးသူမဖြစ်ပြီး၊ ဗဟုသုတလည်း ကြွယ်ဝသည်။ ကိုယ်တော်ﷺသည် သခင်မထံမှနဂျာရှီဘုရင်ကြီးအကြောင်းများ၊ ဟဗ်ရှာအကြောင်းများကို မေးမြန်းလေ့ရှိခဲ့သည်။

**အဗူစွတ်ဖ်ယာန် မဒီနာသို့ ရောက်လာခြင်း**

ဟိုဒိုင်ဗီယဟ် ငြိမ်းချမ်းရေးစာချုပ်သည် မွတ်စ်လင်မ်တို့နှင့် မုရှ်ရိုက်တို့ကြား ဟစ်ဂျ်ရီ(၆)ခုနှစ်တွင် ချုပ်ဆိုခဲ့ခြင်းဖြစ်သည်။ ထိုအထဲတွင် နှစ်ဦးနှစ်ဖက်ရှိပုဂ္ဂိုလ်တို့သည် အချင်းချင်းလည်း စစ်မက်မတိုက်ခိုက်ရ၊ ၎င်းတို့၏ မဟာမိတ်များကိုလည်း မတိုက်ခိုက်ရဟူ၍ ဖြစ်သည်။ ဗနူခိုဇာအဟ်တို့သည် မွတ်စ်လင်မ်တို့၏ မဟာမိတ်ဖြစ်ပြီး၊ ဗနူဗက်ရ်တို့သည် ကိုရိုင်ရှ်တို့၏ မဟာမိတ်ဖြစ်သည်။ ဗနူဗက်ရ်တို့က ဗနူခိုဇာအဟ်တို့အပေါ် ညအအချိန် ရုတ်တရက် စစ်ဆင်ရေးပြုလာပြီး (၂၃)ဦးကိုပါ သတ်ဖြတ်လိုက်ကြသည်။ ထိုစစ်ဆင်ရေးတွင် ကိုရိုင်ရှ်တို့အနက် အချို့ကလည်း ပါဝင်အားဖြည့်ကူညီထားကြောင်း သိရှိလိုက်ရသည်။

ဗနူခိုဇာအဟ်တို့က မြင်းစီးသူရဲကောင်း(၄၀)ကို အိုမရ်ဗင်န်စာလင်မ်၏ ဦးဆောင်မှုဖြင့် ကိုယ်တော့်ထံ စေလွှတ်ခဲ့သည်။ ဤကြေကွဲဖွယ်ဖြစ်ရပ်ကို ကိုယ်တော်မြတ် ﷺ ကြားပြီးနောက် အတိုင်းထက်အလွန် စိတ်မကောင်းဖြစ်ခဲ့ရသည်။ ထို့နောက် "ငါ့အသက်ကို စိုးပိုင်တော်မူသော အရှင်မြတ်၏ ကစမ်၊ ငါ့အိမ်သူအိမ်သားများကို

စောင့်ရှောက်သကဲ့သို့ အသင်တို့ကိုလည်း ငါစောင့်ရှောက်မည်”ဟု မိန့်ကြားလိုက်သည်။

ထို့နောက် ကိုယ်တော်မြတ် ﷺက ကိုရိုင်ရှ်တို့ထံ သံတမန်တစ်ပါးအား စည်းကမ်းချက်(၃)ချက်ဖြင့် စေလွှတ်ခဲ့သည်။

၁။ ကွယ်လွန်သူအတွက် လျော်ကြေးပေးဆောင်ရမည်ဖြစ်ကြောင်း။

၂။ ကိုရိုင်ရှ်တို့သည် ဗနူဗက်ရ်တို့အား မကူညီရမည်ဖြစ်ကြောင်း။

၃။ ဟုဒိုင်ဗီယာ ပြေငြိမ်းရေး စာချုပ်ဖျက်သိမ်းကြောင်း။

ကိုရိုင်ရှ်တို့သည် တတိယစည်းကမ်းချက်ကို ကြားပြီး နောင်တရသွားခဲ့ကြသည်။ ထို့နောက် စာချုပ်သက်တမ်းတိုးရန် အဗူစွတ်ဖ်ယာန်ကို မဒီနာမြို့သို့ စေလွှတ်ခဲ့ကြသည်။

အဗူစွတ်ဖ်ယာန်သည် ကိုယ်တော်မြတ် ﷺထံ အခစား ဝင်ပြီး စာချုပ်သက်တမ်းတိုးပေးရန် တောင်းခံခဲ့သည်။ သို့သော် ကိုယ်တော် ﷺက အဖြေမပေးခဲ့ပါ။

နောက်ဆုံးတွင် အဗူစွတ်ဖ်ယာန်က သမီးတော်နှင့်တွေ့ဆုံရန် သမီးတော်ရှိရာအခန်းသို့ လာရောက်ခဲ့သည်။ ကုတင်ပေါ်တွင် ထိုင်ရန် ပြင်ဆင်နေချိန် သမီးတော်က ဤသည် ကိုယ်တော်မြတ် ﷺ ထိုင်လေ့ရှိသည့် ကုတင်ဖြစ်သည်။ ဖခင်သည် မုရှ်ရိက်ဖြစ်နေသောကြောင့် ဤကုတင်ပေါ်တွင်မထိုင်ထိုက်ပါဟု ပြတ်ပြတ်သားသားပြောဆိုလိုက်သည်။

## မြတ်ကိုယ်တော် ﷺ ဝဖားသ်ဖြစ်ပြီးနောက်

ဟစ်ဂျ်ရီ (၁၁)ခုနှစ်တွင် မြတ်ကိုယ်တော် ﷺ ကွယ်လွန်သွားခဲ့သည်။ ကိုယ်တော် ﷺ ဝဖားသ်ဖြစ်ပြီးသည့်နောက် မိခင်တို့ကို တက်လာသည့် ခလီဖွာကြီးများက စောင့်ရှောက်ခဲ့ကြသည်။ အိုမရ် رَضِيَ ٱللَّٰهُ عَنْهُ သခင်ကြီးသမ္မတ တာဝန်ယူချိန် မိခင်မွန်တို့နှင့် ပတ်သက်သည့် ကိစ္စအဝဝကို ဦးထိပ်ပန်ဆင်ခဲ့သည်။

မိခင်မွန် အွမ္မေ့ဟဘီဘာ ကလည်း ကိုယ်တော် ဝဖားသ်ဖြစ်ပြီးနောက်ပိုင်း မိမိတတ်စွမ်းနိုင်သည့်ဘက်မှ အွမ္မသ်ကို အကျိုးပြုပေးခဲ့သည်။ အရေးပါသော သမိုင်းအချိုးအကွေ့အများစုတွင် သခင်မကြီး၏ ကြိုးပမ်းဆောင်ရွက်ချက်များကို အထင်းသာ တွေ့ရှိနေရသည်။

## နောက်ဆုံးအချိန်၏ အမှတ်တရများ

သခင်မကြီးက ကွယ်လွန်ချိန် နီးကပ်လာသောအခါ မိခင်မွန် အာအေ့ရှာ رَضِيَ ٱللَّٰهُ عَنْهَا နှင့် မိခင်မွန် အွမ္မေစလမဟ် رَضِيَ ٱللَّٰهُ عَنْهَا တို့အား ခေါ်ပြီး “ ငါတို့သည် ခင်ပွန်းညီအစ်မများဖြစ်ခဲ့ကြသည်။ အချင်းချင်းကြား အဖုအထစ်များရှိခဲ့သည်။ ငါ့ရဲ့ပြောမှားဆိုမှား၊ လုပ်ရပ်မှားတိုင်းကို အရှင်မြတ်အတွက် ခွင့်လွှတ်ပေးကြပါ”ဟု တောင်းပန်စကားဆိုခဲ့သည်။ မိခင်မွန်နှစ်ဦးလုံးကလည်း တစ်သံထဲ “ခွင့်လွှတ်ပါတယ်”ဟု ဖြေကြားလိုက်ရာ သခင်မက “အသင်မတို့က ငါ့အားပျော်ရွှင်စေလိုက်ပြီ၊ အလ္လာဟ် အရှင်မြတ် အသင်မတို့အား ပျော်ရွှင်စွာ ထားတော်မူပါစေ။”ဟု ပြောကြားလိုက်သည်။

သခင်မသည် သက်တော် (၇၂)နှစ်၊ ဟစ်ဂျ်ရီ(၄၄)ခုနှစ်တွင် မဒီနာရွှေမြို့တော်၌ပင် ကွယ်လွန်ခဲ့သည်။ ဂျန္နသုလ်ဗကီးအ်် သချိုင်းတော်တွင် မြှုတ်နှံခြင်းခံခဲ့ရသည်။ ကိုယ်တော်မြတ်ﷺထံမှ ဟဒီးဆ်တော်ပေါင်း (၆၅)ပုဒ် ဆင့်ပြန် တော်မူခဲ့သည်။

**မိခင်မွန် အွမ္မေ့ ဟဘီဘား رَضِيَ اللَّهُ عَنْهَا သခင်မ၏ ဘဝမှ သင်ခန်းစာများ**

၁။ သာသနာတော်အတွက် အရာရာကို ပေးဆပ်စတေးရဲခြင်း

၂။ မွတ်စ်လင်မ်ဇနီးကောင်း၊မုအ်မင်န်မိခင်ကောင်းများအတွက် စံနမူနာပြသပေးခြင်း။

၃။ သာသနာတော်အတွက် ပေးဆပ်မှုအတိုင်းအတာ မြင့်မားသဖြင့် အရှင်မြတ်ကလည်း လောက၌ပင် နဗီ့ကြင်ယာအဖြစ် ရွေးချယ်ပေးပြီး၊ တမလွန်တွင်လည်း အောင်မြင်မှုအပေါင်း သရဖူဆောင်းနိုင်ခြင်း။

၄။ နဗီ့အဆင့်အတန်းကို သိရှိပြီး၊ မုရှ်ရိက်ဖခင်အား နဗီ့အဆင့်အတန်းကို ပြသပေးရဲ့သည့် သတ္တိရှိခြင်း။

၅။ ခင်ပွန်းပြိုင်ညီအစ်မများထံမှ ခွင့်လွှတ်မှုအပြည့်ရယူနိုင်ခြင်း။

၆။ ခက်ခဲမှုတိုင်း၏ နောက်တွင် ချိုမြိန်လှပသည့် ချောင်လည်လှသော အခိုက်အတန့်များရှိနေသည်ကို မျှော်လင့်ချက်ထားခြင်း။

၇။ မည်မျှပင် ဒုက္ခများနှင့်ကြုံတွေ့နေရပါစေ အီမာန်နှင့်အစ္စလာမ်ကို ရင်ဝယ်ထွေးပိုက်ခြင်း။

၈။ အစ္စလာမ်အတွက် အပြုသဘောဆောင်သည့် ခံစားချက်ရှိခြင်း။

## (၁၀) မိခင်မွန်ဆွဖီယဟ် رَضِيَ ٱللَّهُ عَنْهَا နှင့် တဒင်္ဂ

### (ယဟူဒီ(ဂျူးလူမျိုးတို့)၏ စိတ်နေသဘောထားများ၊ အတွေး အခေါ်များကို ဖွင့်ချခဲ့ သည့် ကျေးဇူးရှင်၊ စိတ်ဓါတ်မြင့်မြတ်ပြီး သစ္စာရှိလှသည့် မိခင်မွန်)

အမည် - ဆွဖီယဟ် ဗင်န်သေ့ ဟုယိုင်ယ် رَضِيَ ٱللَّهُ عَنْهَا

မျိုးရိုးစဉ်ဆက် -

هي: صفية بنت حيي بن أخطب بن سعية بن ثعلبة بن عبيد بن كعب بن الخزرج بن أبي الحبيب بن النضير بن النحام بن ناخوم. وبنو النضير قبيلة من ذرية النبي هارون بن عمران بن قاهات ابن لاوي بن يعقوب بن إسحاق بن إبراهيم بن آزر.

أمها :برة بنت سموأل من بني قريظة وهي أخت الصحابي رفاعة بن سموأل.
وبنو قريظة من ذرية النبي يعقوب بن إسحاق بن إبراهيم بن آزر.

ဘွဲ့ထူး - မုအ်မင်န်တို့၏မိခင်မွန်

ဖခင် - ဟုယိုင်ယ်ဗင်န် အခ်သွဗ် (ဗနူနဒွီးရ်)

မိခင် - ဘရ်ရဟ် ဗင်န်သေ့ စမောဝ်အလ် (ဗနူကိုရိုင်ဇွာ)

မွေးချင်းမောင်နှမ - (၂)ဦး

ယခင်အိမ်ထောင်ဆက် - (ဗနူကိုရိုင်ဇွာ၏ မြင်းစီးသူရဲကောင်း၊ ကဗျာဆရာ) စလ္လာ့းမ်ဗင်န်မိရှ်ကမ်၊ ထို့နောက်ကိနာနား‌ဟ်ဗင်န် အဗိလ်ဟကီးက်)

သားသမီး - မထွန်းကား

ဖွားမြင်ခြင်း - ဟစ်ဂျ်ရသ်မတိုင်မီ(၁၂)နှစ် = ခရစ်နှစ်(၆၁၀)ခု

ဖွားမြင်သည့်နေရာ - မဒီနာရွှေမြို့တော်

ကွယ်လွန်တော်မူခြင်း - ဟစ်ဂျ်ရီ (၅၀)ခု=ခရစ်နှစ် (၆၇၁)ခု

ကွယ်လွန်သည့် နေရာ - မဒီနာရွှေမြို့တော်၊ ဗကီးအ် သင်္ချိုင်းတွင် မြှုတ်နှံခံရ။ စအီးဒ်ဗင်န် အလ်အားစ့် သခင်က ဂျနာဇာဖတ်ပေးခဲ့သည်။ အာအေ့ရှာ သခင်မကြီးကို ရွှေဒင်္ဂါးတစ်ထောင် ပေးရန်လည်း မှာတမ်း ခဲ့သည်။

ဆင့်ပြန်ခဲ့သည့် ဟဒီးဆ်တော်ပေါင်း - (၁၀)ပုဒ်

ကိုယ်တော်မြတ် صَلَّى ٱللَّٰهُ عَلَيْهِ وَسَلَّمَ နှင့် နေထိုင်ခွင့်ရခဲ့သည့် ကာလ -

## မိခင်မွန် ဆွဖီယာဟ် ဗင်န်သေ့ ဟိုယိုင်ယ် رَضِيَ ٱللَّهُ عَنْهَا ၏ အတ္ထုပ္ပတ္တိအကျယ်

မိခင်မွန် ဆွဖီယာဟ် ဗင်န်သေ့ ဟိုယိုင်ယ် رَضِيَ ٱللَّهُ عَنْهَاသည် ကိုယ်တော်မြတ် صَلَّىٰ ٱللَّهُ عَلَيْهِ وَسَلَّمَ၏ ဒသသမမြောက် ကြင်ယာတော်ဖြစ်သည်။ ဟစ်ဂျရသ်မတိုင်မီ (၁၀)နှစ်တွင် မဒီနာရွှေမြို့တော်တွင် မွေးဖွားခဲ့သည်။ ဖခင်သည် မဒီနာမြို့ရှိ ယဟူဒီမျိုးနွယ်စုကြီးသုံးစု(ဗနူနဇွီးရ်၊ ဗနူကိုရိုင်ဇွာဟ်၊ ဗနူကိုင်နူကာအ်တို့) အနက် (ဗနူနဇွီးရ်) မျိုးနွယ်ဝင်ဖြစ်သည်။ ဤမျိုးနွယ်ဝင်တို့သည် တမန်တော် ဟာရူးန် عَلَيْهِ ٱلصَّلَاةُ وَٱلسَّلَامُ၏ မျိုးနွယ်ဝင်များဖြစ်ကြသည်။

မိခင်သည်လည်း ယဟူဒီမျိုးနွယ်ကြီး(၃)ခုအနက် ဗနူကိုရိုင်ဇွာဟ်နွယ်ဝင်ဖြစ်သည်။ ဤမျိုးနွယ်သည် တမန်တော် ယအ်ကူးဗ် عَلَيْهِ ٱلصَّلَاةُ وَٱلسَّلَامُ၏ မျိုးရိုးမှ ဆင်းသက်လာသည်။

ဗနူနဇွီးရ်တို့သည် ရာစုနှစ်ပေါင်းများစွာကတည်းက မဒီနာရွှေမြို့တော်တွင် နေထိုင်ခဲ့ကြပြီး ဥစ္စာ၊ စစ်လက်နက်၊ သိက္ခာအရှိဆုံး အုပ်စုဖြစ်ခဲ့သည်။ မဒီနာမြို့ရှိ ယဟူဒီအုပ်စု(၃)စုလုံးတွင် ဗနူနဇွီးရ်တို့က အရာရာတွင် သာမြတ်ခဲ့သည်။

ဟိုယိုင်ယ်ဗင်န် အခ်သွဗ်သည် ဗနူနဇွီးရ်၏ ခေါင်းဆောင်ဖြစ်ခြင်းနှင့်အတူ စာပေအရာတွင် တစ်ဖက်ကမ်းခပ် ကျွမ်းကျင်နှံ့စပ်သူလည်းဖြစ်သည်။ ထို့ကြောင့်သူသည် ယဟူဒီအပေါင်းတွင် ပြိုင်စံရှားခေါင်းဆောင်တစ်ဦးဖြစ်နေခဲ့သည်။

ဆွဖီယာဟ်သခင်မကြီးသည်လည်း ယဉ်ကျေးမှုအရာ၊ သိက္ခာ၊ ဥစ္စာ၊ အာဏာ၊ ပညာတို့အလျံပယ်ရှိနေသော အိမ်တွင် မွေးဖွားကြီးပြင်းလာခဲ့သည်။ စည်းစိမ်အပြည့်ဖြင့် ကြီးပြင်းလာပြီး အဆင်မြင့်ပညာရေးကို သင်ယူရရှိခဲ့သည်။ သခင်မကြီးသည် ငယ်ရွယ်စဉ်ကတည်းက ဘိုးဘွားတို့၏ သောင်ဝ်ဟီးဒ်ပေါ် အခြေခံသည့် ယုံကြည်ချက်များ၊ နဗီတမန်တော်အပေါင်းတို့၏ အဆင့်အတန်း၊ ကွယ်လွန်ပြီးနောက် ရှင်ပြန်ထရမည့် ယုံကြည်ချက်များကိုလည်း သိရှိလိုက်နာထားပြီးဖြစ်သည်။ သခင်မသည် ဘက်စုံပြည့်စုံထူးချွန်လှသည့်အတွက် မျိုးနွယ်စု တစ်ခုလုံး၏ အချစ်တော်ဖြစ်ခဲ့ရသည်။ သခင်မ၏ ဦးလေးများပင် သခင်မကို သူတို့၏ သားသမီးများထက်ပင် ပိုမိုချစ်ခင်ကြသည်။

## ကိုယ်တော်မြတ် ၏ မဒီနာမြို့သို့ ကြွမြန်းလာချိန်

သခင်မ (၁၀)နှစ်သမီးတွင် ကိုယ်တော်မြတ်ﷺ သည် မဒီနာသို့ ဟစ်ဂျ်ရသ်ပြု ပြောင်းရွှေ့လာသည်။ ဤသမိုင်းဝင်သတင်းသည် မဒီနာတစ်ခွင်တွင် ပဲ့တင်ထပ်သွားခဲ့သည်။ အထက်တွင် တင်ပြခဲ့သည့်အတိုင်း မဒီနာရှိ ယဟူဒီမျိုးနွယ်(၃)ခုလုံးသည် မဒီနာ၏စီးပွားရေး၊ စစ်ရေး ၊ ကာကွယ်ရေး ၊ ပညာရေး၊ ကျန်းမာရေးစသည့် အရေးကိစ္စအဝဝကို လက်ဝါးကြီးအုပ်ထားကြသည်။ ၎င်းတို့ထံတွင် ခိုင်ခံ့ လုံခြုံလှသည့် ရဲတိုက်ကြီးများလည်း ရှိနေသည်။

အရာရာတွင် ယဟူဒီတို့၏ ဦးဆောင်မှု၊ ကြိုးကိုင်မှုကို ကြည့်ပြီး ကိုယ်တော်မြတ် ﷺက ၎င်းတို့နှင့် ကောင်းသောဆက်ဆံရေးထားရှိခဲ့သည်။ ၎င်းတို့ကို စစ်မှန်သော အစ္စလာမ် သာသနာတော်ဘက်

သို့ ဖိတ်ခေါ်ခဲ့သည်။ ၎င်းတို့အား ကိုယ်တော်မြတ် ﷺ အထူးပြု ပေးခဲ့သည့် အချက်များမှာ

- ၎င်းတို့ကို ကောင်းမွန်စွာ ဆက်ဆံခဲ့သည်။
- ၎င်းတို့အထွတ်အမြတ်ထားရာ ဗိုင်သွလ် မုကဒ္ဒတ်စ်ဘက်သို့ (၁၆)လတိုင်တိုင် မျက်နှာမူပြီး နမားဇ်ဝတ်ပြုခဲ့သည်။
- ကျမ်းမြတ်ကုရ်အာန်တွင်လာရှိထားသော ၎င်းတို့ အကြောင်း များကို ခမ်းခမ်းနားနား မိန့်ကြားပေးခဲ့သည်။
- မဒီနာမြို့တော်စည်ပင်သာယာရေးနှင့် ငြိမ်းချမ်းရေး စာချုပ် ချုပ်ဆိုရာတွင်လည်း ၎င်းတို့အား ပါဝင်စေခဲ့သည်။ ၎င်းတို့နှင့် သီးသန့် ပဋိညာဉ်များ ပြုခဲ့သည်။
- ၎င်းတို့အချင်းချင်းကြား အဆင့်အတန်းနိမ့်ပါးသော ဗနူကိုရိုင်ဇွာ တို့ကိုလည်း နဗီတမန်တော်မြတ်ﷺက တန်းတူညီတူ ဆက်ဆံခဲ့သည်။

## ဆွဖီယာသခင်မကြီးပြောသော ဖခင်နှင့်ဦးလေးအကြောင်း

ဟိုယိုင်ယ်နှင့်၎င်း၏နောင်တော် အဗူယာစိရ်တို့သည် ကိုယ်တော် ﷺ၏ ထိုင်ဝိုင်းတွင် တနေကုန်အခစားဝင်ကြသည်။ မေးခွန်းများလည်း မေးမြန်းကြသည်။ ညတွင် ညီအစ်ကိုနှစ်ဦး တည်း လျှို့ဝှက်တွေ့ဆုံကြပြီး အောက်ပါအချက်များအား ဆွေးနွေး ခဲ့ကြသည်ကို သခင်မကြီးက ပြန်လည်ပြောပြထားသည်။ အိမ်ဗ်နေ့ ဟော့ရှားမ်ကျမ်းလာ သခင်မကြီး၏ ပြောပြချက်များမှာ -

ဦးလေး - ကျွန်တော်တို့ ကျမ်းစာမှာပါတဲ့ နောက်ဆုံးနဗီဆိုတာ သူပဲလား နောင်တော်။

ဖခင် - အရှင်မြတ်ရဲ့ ကစမ်၊ သူက အဲ့ဒီနောက်ဆုံးနဗီပဲကွ။

ဦးလေး - နောင်တော် ဒါကို အပြည့်အဝယုံကြည်လား။

ဖခင် - ယုံတာပေါ့ကွ။

ဦးလေး - ဒါဆို ဘာဆက်လုပ်ကြမလဲ။

ဖခင် - အသက်ရှိသရွေ့ သူ့ကို ဆန့်ကျင်သွားမယ်။ သူ့ရဲ့ တက်လမ်း မှန်သမျှကို ပိတ်ဆို့ရမယ်။”

ဤလျှို့ဝှက်စကားရပ်များကို(၁၁)နှစ်အရွယ်ဆွဖီယာဟ်သခင်မ က အစအဆုံး ကြားခဲ့ရသည်။ နောက်ပိုင်းတွင် အရှင်မြတ်ကလည်း ကျမ်းမြတ်ကုရ်အာန်တွင် ၎င်းတို့၏ ယုတ်မာမှုများ၊ ကောက်ကျစ် စဉ်းလဲပုံများ၊ စိတ်နေသဘောထားများကို ဖော်ပြပေးလိုက်သည်။

## နဗီတမန်တော်မြတ်အပေါ် ယဟူဒီတို့ ရန်ညှိုးထားရခြင်း အကြောင်း အရင်း

ကျမ်းမြတ်ကုရ်အာန်ကို လေ့လာခြင်းအားဖြင့် နဗီတမန်တော် မြတ်ﷺအပေါ် ယဟူဒီတို့ ရန်ညှိုးထားရခြင်း၏ အဓိက အကြောင်းအရင်းမှာ မျိုးရိုးစွဲမာန၊ လူမျိုးကြီး ဝါဒကြောင့်ဖြစ်သည်။ ၎င်းတို့၏ ခံယူချက်မှာ

- ကမ္ဘာပေါ်ရှိ လူသားအပေါင်းတို့ထက် ယဟူဒီ(ဂျူး)တို့သည် မြင့်မြတ်သည်။
- ၎င်းတို့သည် အရှင်မြတ်အချစ်ခံရဆုံး လူတန်းစားများဖြစ်သည်။
- မွန်မြတ်မှုတိုင်း ၊ သိက္ခာတိုင်းသည်လည်း ၎င်းတို့အတွက်သာ ဖြစ်ရမည်။

ထို့ကြောင့် နောက်ဆုံးနဗီပွင့်ပေါ်ခြင်းသည်လည်း ၎င်းတို့မျိုးနွယ်ထဲကသာ ဖြစ်ရမည်။ သို့သော်လည်း နောက်ဆုံး နဗီသည် ဗနူအစ္စမာအီးလ်ထဲမှ ပွင့်လာခဲ့သည်။ ထို့ကြောင့် ၎င်းတို့သည် နဗီ့ကို ဘဲ့တိုက်အရွဲ့တိုက်ခြင်း၊ ဒုက္ခများပေးခြင်းတို့ကို များစွာ ပြုလာခြင်းဖြစ်သည်။ ၎င်းတို့ရင်ထဲတွင် တောက်လောင်နေသော အမုန်းမီးများ၊ ကိုယ်တော် ﷺ နှင့် ကိုယ်တော့် အွမ္မသ်သားများအပေါ် ၎င်းတို့၏ ကောက်ကျစ်စဉ်းလဲပုံများကို ကျမ်းမြတ်ကုရ်အာန် ၊ စူရဟ် အာလေ့အင်မ်ရာန် (အာယသ် ၁၁၈၊၁၁၉)တွင် အသေးစိတ် လေ့လာနိုင်ပါသည်။

ဗဒရ်စစ်ပွဲတွင် မွတ်စ်လင်မ်တို့၏ အောင်နိုင်မှုကို ကြားသိပြီးနောက် ၎င်းတို့သည် အရင်ကထက်ပင် ပိုမိုရန်ညှိုးထားလာတော့သည်။ ကနဦးပိုင်းတွင် ပြုလုပ်ထားသော ကတိကဝတ်များ၊ သဘောတူညီချက်များ၊ ပဋိညာဉ်များကိုပင် စတင်ချိုးဖောက်လာတော့သည်။

ပထမဆုံး ကတိချိုးဖောက်သည့် အုပ်စုမှာ ဗနူကိုင်နူကာအ်တို့ဖြစ်သည်။ ၎င်းတို့သည် ပန်းဘဲအလုပ်၊ ပန်းတိမ်အလုပ်ကို လုပ်ကြသည်။ ၎င်းတို့ထံတွင် စစ်သည်ပေါင်း(၇၀၀)ရှိသည်။ မဒီနာမြို့သူ

မြို့သားတို့သည် ၎င်းတို့ထံသို့ သံထည်ပစ္စည်းများဝယ်ယူရန်၊ ရွှေထည်ငွေထည်များ ပြုလုပ်ရန် သွားကြရသည်။

သူတို့သည် မဒီနာရှိ ခဇ်ရဂျ်မျိုးနွယ်ဝင်တို့နှင့် မဟာမိတ်လည်း ဖြစ်သည်။ ဗဒရ်စစ်ပွဲအပြီးကတည်းက ၎င်းတို့ဈေးသို့ရောက်ရှိလာသည့် မွတ်စ်လင်မ်တို့ကို နှောက်ယှက်လာကြသည်။ အမျိုးမျိုး ဒုက္ခပေးခဲ့ကြသည်။ တစ်ရက်တွင် သူတို့အနက် တစ်ဦးက မုအ်မင်န်အမျိုးသမီးတစ်ဦး၏ အဝတ်အစားများကို ဆွဲချွတ်သည်အထိ စော်ကားလာခဲ့ရာ မုအ်မင်န်တစ်ဦးက ယင်းယဟူဒီအား အဆုံးစီရင်လိုက်သည်။ မုအ်မင်န်ကိုလည်း ၎င်းတို့က ရှဟီးဒ်လုပ်လိုက်ကြသည်။ ဤမှတဆင့် ပြဿနာကြီးထွားလာခဲ့သည်။ ဤပြဿနာအား ဖြန်ဖြေပေးရန် ကိုယ်တော်မြတ် ﷺ ကိုယ်တော်တိုင် ကြွမြန်းလာပြီး ညှိနှိုင်းခဲ့သည်။ ၎င်းတို့အား လမ်းမှန်ကို ရွေးချယ်ရန် တိုက်တွန်းခဲ့သည်။ သို့သော်လည်း သူတို့က “ဟေ့… မုဟမ္မဒ် ၊ ငါတို့ကို ကိုရိုင်ရှ်တွေများထင်နေလား။ သူတို့မှာတိုက်ရည်ခိုက်ရည်မရှိလို့ အသင်နိုင်ခဲ့တာနော်။ ငါတို့နဲ့ ကြုံရင် တိုက်ရည်ခိုက်ရည်ရှိတဲ့ တကယ့်ယောက်ကျားတွေ ဘယ်လိုလဲ သိသွားမယ်” ဟု မချေမငံ ပြောဆိုခဲ့ကြသည်။ ဤသည် ငြိမ်းချမ်းရေးကို ပျက်ပြားစေသည့် ပဋိပက္ခခေါ်သံ ဖြစ်သည်။

**ဗနူကိုင်နူကာအ်တို့၏ နိဂုံး**

ဤပြောဆိုသံများကြောင့် ကိုယ်တော်မြတ် ﷺ သည် ဟစ်ဂျ်ရီ(၂)ခုနှစ်ရှောင်ဝါလ်(သို့)ဇုလ်ကာအ်ဒဟ်တွင် ၎င်းတို့အား ဝန်းရံလိုက်သည်။ တောင့်မခံနိုင်သည့်အဆုံး (၁၅)ရက်အတွင်း ၎င်းတို့

သည် လက်နက်ချလိုက်ရသည်။ သောင်ဝ်ရားသ်ကျမ်းလာအဆို အမိန့်များ၊ ကမ္ဘာလုံးဆိုင်ရာ ဥပဒေများအရ သစ္စာဖောက်များသည် ခေါင်းဖြတ်သတ်ခြင်းခံထိုက်သည်။ သို့သော်လည်း တစ်ခွင်ကမ္ဘာ ကရုဏာပွားသူ ကိုယ်တော်မြတ်ﷺသည် ၎င်းတို့အား နယ်နှင်ဒဏ်သာ ခတ်ခဲ့သည်။ ၎င်းတို့သည် ဆီးရီးယားနိုင်ငံရှိ ဇရအားသ် သို့ ပြောင်းရွှေ့သွားကြသည်။ ထိုအချိန်၎င်းတို့၏ အရေအတွက်မှာ (၇၀၀)ခန့်ရှိသည်။

## ဗနူနဇွီးရ်တို့၏ သစ္စာဖောက်မှု

ဗနူကိုင်နူကားအ်တို့၏နိဂုံးသည် မဒီနာမြို့ရှိအခြားသော ယဟူဒီတို့အတွက် သင်ခန်းစာ ဖြစ်ခဲ့သည်။ သတိပေးခေါင်းလောင်းလည်း မြည်သွားခဲ့သည်။ သို့သော်လည်း ယဟူဒီတို့သည် မိမိတို့အခြေအနေကို မပြောင်းလဲသည့်အပြင် ပိုမို ဆိုးရွားလာခဲ့ကြသည်။

တစ်ရက် ကိုယ်တော်မြတ်ﷺသည် ဆွဟာဗာအချို့နှင့်အတူ ဗနူနဇွီးရ်နှင့် သွေးကြွေးတစ်ခုကိစ္စ တိုင်ပင်ရန် ၎င်းတို့ထံ ကြွမြန်းလာခဲ့သည်။ ၎င်းတို့သည် ကိုယ်တော်မြတ်ﷺအား ချိုသာသောစကားများဖြင့် ဧည့်ခံပြီး ကိုယ်တော့်အပေါ် ခေါင်ပေါ်မှ ကျောက်တုံးကြီး တစ်လုံး ပစ်ချရန် အမ်ရ်ဗင်န်ဂျဟ္ဟာရ်ကို ခန့်အပ်စီစဉ်ထားကြသည်။ အရှင်မြတ်က တမန်တော်မြတ်ﷺကို အသိပေးလိုက်ရာ ကိုယ်တော်သည် ချက်ချင်းမဒီနာသို့ ပြန်လည်ကြွမြန်းသွားခဲ့သည်။

## ဗနူနဒွီးရ်တို့နှင့်ပတ်သက်သည့် ဆုံးဖြတ်ချက်

ၗင်းတို့၏ ဤမသမာသော လုပ်ရပ်ကို ကြည့်ပြီး ကိုယ်တော်မြတ်ﷺ သည် အောက်ပါအတိုင်း ဆုံးဖြတ်ပြီး အကြောင်းကြားလိုက်သည်။ "(၁၀)ရက်အတွင်း မဒီနာကို စွန့်ခွာသွားပါ။ (၁၀)ရက်နောက်ကျန်ရှိနေသူတိုင်းကို ခေါင်းဖြတ်သတ်မည်။"

အစပိုင်းတွင် ၎င်းတို့သည် ထွက်ခွာရန် အဆင်သင့်ဖြစ်ခဲ့သည်။ သို့သော် မုနာဖိက် ခေါင်းဆောင် အဗ္ဗဒ္ဒုလ္လာဟ်ဗင်န် အိုဗိုင်ယ်က "အသင်တို့ကို လူနှစ်ထောင်ပါသော တပ်ဖြင့် ကူညီပေးမည်။ ဗနူကိုရိုင်ဇွာနှင့် အရဗ်စစ်သွေးကြွမျိုးနွယ် ဗနူဂသ္ဖ်ဖားန်တို့သည်လည်း အသင်တို့ကို ဝိုင်းဝန်းကူညီကြမည်။ မိမိတို့နေရာတွင်သာ ဆက်လက်နေထိုင်ကြပါ"ဟု အကြောင်းကြားလိုက်သည်။ မိုနာဖိက်တို့၏ မြှောက်ထိုးပင့်ကော်မှု၊ မုသားကတိများအပေါ် အယုံလွန်ကဲပြီး "ငါတို့မိမိတို့ဒေသမှ ထွက်ခွာလိမ့်မည် မဟုတ်၊ အသင်ကြိုက်နှစ်သက်ရာ လုပ်နိုင်ပါတယ်။" ဟု အကြောင်းကြားလိုက်သည်။

## ဗနူနဒွီးရ်တို့အား ဒဏ်ခတ်ခြင်း

ဤအကြောင်းကြားချက်ကို ကြားသိလိုက်ရသည့် တစ်ပြိုင်နက် ဟာစ်ဂျ်ရီ(၄)ခု၊ ရဗီအွလ်အောက်ဝလ်လမြတ်တွင် ကိုယ်တော်မြတ်ﷺသည် ဗနူနဒွီးရ်တို့၏ အရပ်ဒေသအား စတင်ဝန်းရံပိတ်ဆို့လိုက်သည်။ (၆)ရက် (သို့) (၁၅)ရက်ခန့် ဝန်းရံပိတ်ဆို့ပြီးနောက်

ဗနူနဗ္ဗီးရ်တို့သည် မတတ်သာသည့် အဆုံး အောက်ပါတောင်းဆိုချက်များဖြင့် အရှုံးပေးခဲ့ကြသည်။

- မိမိတို့အရပ်ဒေသမှ ထွက်ခွာသွားပါမည်။
- လက်နက်များမှအပ ကျန်ရှိပစ္စည်းများအားလုံး ကုလားအုတ်တစ်ကောင် သယ်ယူနိုင်သလောက် သယ်ယူသွားခွင့်ပြုပေးရန်။

ခေါင်းဆောင်ကြီး ဟိုယိုင်ယ်က "နောက်နောင် မွတ်စ်လင်မ်တို့နှင့်ကိုယ်တိုင်လည်း တိုက်ခိုက်မည်မဟုတ်၊ မွတ်စ်လင်မ်တို့နှင့်ဆန့်ကျင် တိုက်ခိုက်သူများကိုလည်း ကူညီမည်မဟုတ်တော့ကြောင်း" အရှင်မြတ်နာမတော်ကို တိုင်တည်ပြီး ကတိပေးခဲ့သည်။

၎င်းတို့၏ အခြေအနေနှင့်ပတ်သက်ပြီး ကျမ်းမြတ်ကုရ်အာန်၊ စူရဟ် ဟရှ်ရ်၊ အာယသ်(၂)မှ(၅)တွင် အကျယ်တဝင့် လေ့လာနိုင်ပါသည်။

ဗနူကိုရိုင်ဇွာတို့သည် မဒီနာရွှေမြို့တော်မှ နယ်နှင်ဒဏ်ပေးခံရသည့်အတွက် ကုလားအုတ်အကောင်(၆၀၀)ဖြင့် ခိုင်ဗရ်သို့ထွက်ခွာသွားခဲ့ကြသည်။ ထိုအချိန် ဆွဖီယာဟ် သခင်မ၏ အသက်မှာ (၁၄)နှစ်ဖြစ်သည်။

## ဗနူနဗ္ဗီးရ်တို့၏ခိုင်ဗရ်သို့ရောက်ရှိခြင်း

ခိုင်ဗရ်သည် မဒီနာမြို့တော်၏မြောက်ဘက် (၉၅)မိုင်အကွာတွင် ရှိသည်။ ခိုင်ဗရ်ဆိုသည်မှာ ဟီဗရူးဘာသာ စကားဖြင့် ခံတပ်၊ ရဲတိုက်ကြီးဟုအဓိပ္ပါယ်ရသည်။ ဤနေရာသည် ရေမြေကောင်းသည့်နေရာဖြစ်သည်။ စွန်ပလွံသီးများ ဖြစ်ထွန်း

လှသည်။ ဒေသခံများက ဗနူနဗ္ဗီးရ်တို့ကို လှိုက်လှဲပျူငှာစွာ ကြို ဆိုပြီး ဟိုယိုင်ယ်ကို ၎င်းတို့၏ ခေါင်းဆောင် ခန့်အပ်လိုက်ကြ သည်။ ဤသို့ဖြင့် ခိုင်ဗရ်ဒေသသည် အရဗ်တစ်ခွင်ရှိ ယဟူဒီ အပေါင်းတို့၏ ခိုင်မာသော ဌာနချုပ်ဖြစ်သွားခဲ့သည်။

## တစ်ကျော့ပြန် သစ္စာဖောက်ခြင်း

ဗနူနဗ္ဗီးရ်တို့သည် အတိတ်ဖြစ်ရပ်များမှ သင်ခန်းစာယူရမည့် အစား မိုက်တွင်းနက်နက် ထပ်မံတူးခဲ့ကြသည်။ သူတို့သည် မွတ်စ် လင်မ်တို့နှင့် စစ်ခင်းရန်အတွက် အရဗ်တစ်ခွင်လုံးရှိ မွတ်စ်လင်မ် ဆန့် ကျင်ရေးအုပ်စုများနှင့် တွေ့ဆုံခဲ့ကြသည်။ ဟိုဗိုင်းလ်မျိုးနွယ်၊ ဗနူဂသွ် ဖားန်၊ ကိုရိုင်ရှ်တို့နှင့်ပူးပေါင်းပြီး မဒီနာရွှေမြို့တော်အပေါ် ရုတ်တရက် တိုက်ခိုက်ကြရန် စီစဉ်ခဲ့ကြသည်။

ဤတစ်ကြိမ်တွင် ခံစစ်အစား တိုက်စစ်ဖွင့်ကာ တိုက်ခိုက်ရန် မဟာဗျူဟာကျကျစီမံကြသည်။

## မဒီနာအပေါ် စုပေါင်းထိုးစစ်

ဟိုင်ယိုင်ယ်သည် မွတ်စ်လင်မ်ဆန့်ကျင်ရေး အဖွဲ့အစည်းများ၊ အစ္စလာမ်မုန်းတီးရေး မျိုးနွယ်တို့ဆီသို့ သွားရောက်ပြီး ဤတိုက်ပွဲတွင် ပါဝင်ရန် လှုံ့ဆော်ခဲ့သည်။ မိမိ၏ ကတိကိုလည်း ဥပေက္ခာပြုခဲ့သည်။ ၎င်း၏ ကြိုးပမ်းမှုကြောင့် မြောက်ဘက်မှ ဗနူကိုင်နုကားအ်နှင့် ဗနူနဗ္ဗီးရ်၊ အရှေ့ဘက်မှ ဗနူဂသွ်ဖားန်၊ တောင်ဘက်မှ ကိုရိုင်ရှ်တို့သည် ချီတက် လာကြသည်။ စစ်သည် ဗိုလ်ချေ(၁၂၀၀၀)ဖြင့် ချီတက်လာကြသည်။

၎င်းတို့က မဒီနာမြို့တွင်းရှိ ဗနူကိုရိုင်ဇွာတို့ကိုလည်း ဤစစ်ပွဲတွင် ပါဝင်ရန် တိုက်တွန်းခဲ့ကြသည်။ အစပိုင်းတွင် ဗနူကိုရိုင်ဇွာတို့က လက်မခံ ငြင်းဆန်ခဲ့သော်လည်း အဆုံးပိုင်းတွင် ၎င်းတို့ကိုယ်တိုင်ကလည်း မွတ်စ်လင်မ်တို့နှင့်ပြုလုပ်ထားသော ပဋိညာဉ်ကို ဖျက်သိမ်းကြောင်း ကြေညာလိုက်ကြသည်။ ဤအကြောင်းအသေးစိတ်ကို ကျမ်းမြတ်ကုရ်အာန် စူရဟ်အဟ်ဇာဗ်၊ အာယသ် (၁၀၊၁၁)တွင် ဖော်ပြထားသည်။

သို့သော် ကိုယ်တော်မြတ်ﷺသည် ၎င်းတို့ရှေ့မှောက်မားမားမတ်မတ် ရပ်တည်ခဲ့ပြီး အကောင်းဆုံးသော စွမ်းရည်များကိုပြသရာ အဆုံးတွင် ၎င်းတို့အားလုံး ရှုံးနိမ့်သွားကြသည်။ ဤစစ်ပွဲကို အဟ်ဇာဗ်(သို့)ခန်ဒတ်က်ဟု ခေါ်သည်။

## ဗနူကိုရိုင်ဇွာတို့၏ နိဂုံး

သစ္စာဖောက်ခဲ့သော ဗနူကိုရိုင်ဇွာတို့အား အရေးယူချိန်တန်ခဲ့ပြီ။ စစ်ပွဲပြီးသောအခါ ကိုယ်တော်မြတ် ﷺ သည် ဆွဟာဗာအချို့နှင့် ၎င်းတို့၏ ရပ်ကွက်ကို ဝန်းရံပိတ်ဆို့ခဲ့သည်။ ၎င်းတို့သည် တောင့်မခံနိုင်သည့်အဆုံး အောင်ဝ်စ်မျိုးနွယ်၏ ခေါင်းဆောင် စအဒ်ဗင်န်မုအားဇ် رَضِيَ ٱللَّٰهُ عَنْهُ သခင်ကို သူတို့အရေး ဆုံးဖြတ်ပေးရန် တောင်းဆိုခဲ့ကြသည်။ ကိုယ်တော်မြတ် ﷺကလည်း ၎င်းတို့၏ တောင်းဆိုချက်အတိုင်း ဆောင်ရွက်ပေးခဲ့သည်။ စအဒ်رَضِيَ ٱللَّٰهُ عَنْهُက “ဗနူကိုရိုင်ဇွာရှိ တိုက်ရည်ခိုက်ရည်ရှိသော အမျိုးသားများကို ကွပ်မျက်ရန်၊ အမျိုးသမီးများနှင့်ကလေးသူငယ်များကို ကျွန်ပြုရန်၊ ၎င်းတို့ ပိုင်ဆိုင်သမျှကို သိမ်းပိုက်ရန်” ဆုံးဖြတ်ချက် ချလိုက်သည်။ ဤဆုံးဖြတ်ချက်နှင့် ပတ်သက်ပြီး

ကိုယ်တော်မြတ် ﷺ က "အသင်သည် ကောင်းကင်က ဆုံးဖြတ်ချက်အတိုင်း ဆုံးဖြတ်လိုက်ပြီ"ဟု မိန့်ကြားခဲ့သည်။

ဤအကြောင်းအရာနှင့်ပတ်သက်ပြီးစူရဟ်အဟ်ဇာဗ်၊အာယသ် (၂၆၊၂၇)တွင် အကျယ်တဝင့် လေ့လာနိုင်သည်။

၎င်းတို့၏ ရပ်ကွက်မှ ဓါးရှည်ပေါင်း (၁၅၀၀)၊ သံကျပ်ကာ အင်္ကျီ အထည် (၃၀၀)၊ လှံအလက်ပေါင်း(၂၀၀၀)၊ ဒိုင်းပေါင်း(၁၅၀၀)ရရှိခဲ့သည်။ ၎င်းတို့သည် ဤလက်နက်များဖြင့် ခန်ဒတ်က်စစ်ပွဲတွင် မွတ်စ်လင်မ်တို့အား သတ်ဖြတ်ရန် စီစဥ်ထားခြင်းဖြစ်သည်။

၎င်းတို့အနက် သတ်ဖြတ်ခံရသူများမှာ အိဗ်နေ့ဟော့ရှားမ်رَحِمَهُ اللَّهُ ၏အဆိုအရ (၈၀၀နှင့်၉၀၀)ကြား၊ ဗိုခါရီကျမ်းလာ ဆင့်ပြန်ချက်အရ (၄၀၀)၊ အိဗ်နေ့ စအဒ်၏အဆိုအရ (၆၀၀နှင့်၇၀၀)ကြား ဟူ၍ဖြစ်သည်။

ဤသို့ ကွပ်မျက်ခံရသူများတွင် ဟိုယိုင်ယ်လည်းပါဝင်ခဲ့သည်။ သူ့အား သတ်ဖြတ်ရန် ခေါ်လာချိန် "အရှင်မြတ်ကစမ်၊ အို..မုဟမ္မဒ် အသင်နှင့်ဆန့်ကျင်မိ၍ ကျွန်ုပ် နောင်တမရ၊ အရှင်မြတ်အား ကျောခိုင်းသူကို အရှင်မြတ်ကလည်း စွန့်လွှတ်သည်ကို သိပြီး နောင်တရမိသည်" ဟု ပြောခဲ့သည်။

ဟိုယိုင်ယ်အသတ်ခံရပြီးနောက် အဗူရာဖေ့အ်ဗင်န် အဗိလ် ဟကီးက်သည် ဗနူနဠီးရ်တို့၏ ခေါင်းဆောင်ဖြစ်လာသည်။

ဆွဖီယာဟ်သခင်မကိုလည်း ပထမခင်ပွန်း စလားမ်ဗင်န်မိရှ်ကမ် က ကွာရှင်းလိုက်သည်။ ထို့နောက် ကေနာနဟ်ဗင်န် ရဗီးအ်က သခင်မ

နှင့် လက်ထပ်ခဲ့သည်။ ဟစ်ဂျ်ရီ(၆)ခုနှစ်တွင် ဆွဖီယာသခင်မကြီး၏ ဒုတိယခင်ပွန်း ကေနာနဟ်သည် ဗနူနဇွီးရ်တို့၏ ခေါင်းဆောင်ဖြစ်လာခဲ့ သည်။ သူသည် ခိုင်ခံ့လွန်းသည့် အလ်ကမူးစ် ရဲတိုက်တွင်နေထိုင်ခဲ့ သည်။ သူသည်လည်း ပထမခေါင်းဆောင်များကဲ့သို့ အစ္စလာမ်နှင့် မွတ်စ်လင်မ်တို့ကို တိုက်ခိုက်ရန် စီစဉ်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ သိရှိသောအခါ ၎င်းကို အမျိုးမျိုး နားချခဲ့သည်။ သဝဏ်လွှာ များ ပေးပို့ခဲ့သည်။ သို့သော်လည်း ၎င်းသည် သံဝေဂမယူခဲ့ပါ။

## ဆွဖီယာဟ် (သို့) အဖြူထည်၊ အရိုးခံစိတ်ရင်းရှင်မ

အစ္စလာမ်နှင့် မွတ်စ်လင်မ်တို့အပေါ်ထားရှိသည့် ရန်ညှိုးရန်စ များက ခိုင်ဗရ်ရှိ ယဟူဒီတို့အပေါ် အမှောင်ဖုံးလွှမ်းစေလိုက်သည်။ သို့သော်လည်း ဆွဖီယာသခင်မကြီး၏ နှလုံးသားမှာ ၎င်းတို့နှင့်ဆန့် ကျင်နေသည်။ မွတ်စ်လင်မ်တို့နှင့်ပတ်သက်သည့် သူမ၏ခံယူချက်များ ကလည်း ၎င်းတို့နှင့် တစ်ထပ်တည်း မကျခဲ့ပေ။ သခင်မအနေဖြင့် ၎င်းတို့၏ အစ္စလာမ်နှင့် မွတ်စ်လင်မ်တို့အပေါ် အစွန်းရောက် အစွဲများ ကိုလည်း စိတ်တွင်း မုန်းတီးနေခဲ့သည်။ ဤမှန်ကန်သော အရိုးခံစိတ် ရင်းကြောင့် အရှင်မြတ်ကလည်း သခင်မကြီးအား သနားစင်ပေးသနား တော်မူခဲ့သည်။ ဤရလဒ်အဖြစ် တစ်ရက်သခင်မသည် အိပ်မက်မက်ခဲ့ သည်။ "လူတို့က ရစူလ်ဟုခေါ်သော ပုဂ္ဂိုလ်နှင့်အတူ သူမရှိနေသည်။ ဖရစ်ရှ်သာတစ်ပါးက အတောင်ဖြင့် သခင်မနှင့်ရစူလ်တမန်တော်ကို

ဖုံးအုပ်ပေးထားသည်။” ဤအိပ်မက်အား အိမ်သူအိမ်သားများကို ပြောပြရာ အားလုံးက သခင်မကို မကောင်းပြောဆိုခဲ့ကြသည်။

အခြားအိပ်မက်တစ်ခုမှာလည်း ထူးဆန်းလှသည်။ အိဗ်နေ့ စအဒ်ﷺက မိမိကျမ်းတွင် သခင်မကိုယ်တိုင် ပြောပြသည်ကို ဖော်ပြထားသည်။ “ယဆ်ရိဗ် = မဒီနာမှ လမင်းတစ်စင်း ထွက်လာပြီး သူမ၏ ရင်ခွင်ထဲဝပ်ဆင်းသွားခဲ့သည်။” သခင်မက မိမိ၏ခင်ပွန်း ကေနာနဟ်ကို ပြောပြရာ ၎င်းက မခံချင်စိတ်အပြည့်ဖြင့် ကျွန်မကို ပါးရိုက်ခဲ့ပြီး “မင်းက မဒီနာရဲ့ ရှင်ဘုရင့် မိဖုရားဖြစ်ဖို့ အိပ်မက် မက်နေတာပေါ့လေ”ဟု ပြောခဲ့သည်။ သူပါးရိုက်လှသည့် ဒဏ်၊ အလျှိုးရာ ယခုထိ ပါးပေါ်တွင် ရှိနေခဲ့သည်။”

## ခိုင်ဗရ်ပြဿနာအား အမြစ်ပြတ်ချေမှုန်းခြင်း

ခိုင်မာသော သတင်းရပ်ဝန်းမှသိရှိရသည်မှာ ခိုင်ဗရ်ရှိ ယဟူဒီတို့သည် အစ္စလာမ်နှင့်မွတ်စ်လင်မ်တို့၏ ဆန့်ကျင်ဘက်အုပ်စုများကို သွေးထိုးလှုံ့ဆော်နေခဲ့သည်။ ဗနူဂသ္ဖ်ဖားန်တို့ကိုလည်း ပူးပေါင်းစေသည်။ မွတ်စ်လင်မ်တို့အား အလစ်သုတ်တိုက်ခိုက်ရန် ကြံစည်နေခဲ့သည်။ ထို့ကြောင့် ကိုယ်တော်မြတ်ﷺကလည်း မိမိ၏ စည်သည်တော် (၁၆၀၀)၊ ထိုအထဲတွင်မြင်းစီးစစ်သည် (၂၀၀)ပါဝင်သည်။ ၎င်းတို့အား ခေါ်ဆောင်ပြီး ခိုင်ဗရ်သို့ ချီတက်ရန် စီစဉ်ခဲ့သည်။ ဤစီစဉ်မှု အကြောင်းကို မဒီနာရှိ မိုနာဖိက်တို့က ယဟူဒီတို့အား အကြောင်းကြားခဲ့သည်။

သို့သော်လည်း ကိုယ်တော်မြတ်ﷺသည်မိမိ၏စစ်ရေးပရိယာယ်ဖြင့် မဟာဗျူဟာမြောက် စီမံလိုက်ရာ ၎င်းတို့ အငိုက်မိသွားခဲ့သည်။

အိဗ်နေ့ ဟော့ရှားမ်သခင်၏ ဆင့်ပြန်ချက်အရ ကိုယ်တော်မြတ်ﷺသည် မိုင်ရာချီခရီးကို (၃)ရက်အတွင်း နှင်လိုက်သည်။ ထို့နောက် ရဂျီးအ်အမည်ရှိ တပ်စခန်းတွင် စခန်းချလိုက်သည်။ ဤနေရာသည် ဗနူဂသ္ဖဖားန်တို့၏ နေရပ်နှင့်ခိုင်ဗရ်အကြားတွင်ရှိနေရာ ဗနူဂသ္ဖဖားန်တို့သည် ယဟူဒီတို့အား ကူညီရန် ဝေးစွ၊ လှုပ်ပင် မလှုပ်နိုင်ခဲ့ပေ။

နံနက်စောစောအချိန်အစ္စလာမ့်စစ်တပ်ကြီးခိုင်ဗရ်ထဲဝင်ရောက်လာသည်ကို မြင်ပြီး ယဟူဒီတို့သည် အံ့သြမှင်သက်သွားခဲ့ကြသည်။ ၎င်းတို့သည် မယှဉ်နိုင်တော့ဘဲ ခံတပ်များအတွင်း ခိုအောင်းနေလိုက်ကြသည်။ အလ္လာမဟ် ယအ်ကူဗီက ခိုင်ဗရ်၏ရဲတိုက်များတွင် လူငယ်ပေါင်း(၂၀၀၀၀)ခန့် ရှိနေသည်ဟုခန့်မှန်းပြီး အီဂျစ်နိုင်ငံ၏ ပညာရှင်အလ္လာမဟ် ရရှီးဒ် ရေ့ဇ္ဇာကမူ (၁၀၀၀၀)ဟု ခန့်မှန်းထားသည်။

စစ်သည် (၁၆၀၀)ခန့်ပါဝင်သော အစ္စလာမ့်စစ်တပ်ကြီးက ၎င်းတို့ကို ဝန်းရံပိတ်ဆို့ ထားလိုက်သည်။ တောင့်မခံနိုင်သည့် အဆုံးတွင် ၎င်းတို့လက်နက်ချလိုက်ကြသည်။ အလီသခင်သည် ခိုင်ဗရ်ကို အောင်နိုင်သည့်ဘွဲ့ထူးရရှိခဲ့သည်။ ဤဝန်းရံမှုတွင် မွတ်စ်လင်မ်(၁၅)ဦး ရှဟီးဒ်ဖြစ်ခဲ့သည်။

## ဆွဖီယာဟ် သခင်မကြီး၏ မိသားစုဝင်တို့ ပျက်စီးခန်း

သခင်မ၏ ဖခင်ဟိုယိုင်ယ်သည် သစ္စာဖောက်မှုဖြင့် ဟစ်ဂျ်ရီ(၅) ခုနှစ်တွင် အသတ်ခံခဲ့ရသည်။ ဤစစ်ပွဲတွင် ဦးလေး အဗူယာစိရ်၊ ခင်ပွန်း ကေနာနဟ်၊ အစ်ကိုတစ်ဦးနှင့်ဆွေမျိုးအရင်းအခြာ အမြောက်အများ ကွပ်မျက်ခံလိုက်ရသည်။

## တစ်ခွင်ကမ္ဘာကရုဏာပွားသူ၏ ကရုဏာမိုးစက်များ

ခိုင်ဗရ်ရှိ ယဟူဒီတို့၏ လုပ်ရပ်များ၊ အစ္စလာမ်နှင့် မွတ်စ်လင်မ် တို့၏ဆန့်ကျင်ဘက် ကြံစည်မှုများ၊ သစ္စာဖောက်မှုများအကြောင်း အထက်တွင် ဖော်ပြခဲ့ပြီးဖြစ်သည်။ သောင်ဝ်ရားသ်ကျမ်းလာ ပညတ်ချက်များအရ ၎င်းတို့အားလုံးအား သတ်ဖြတ်ခြင်း၊ ပိုင်ဆိုင်မှုများ သိမ်းယူခြင်း၊ ဇနီးမယား သားသမီးတို့ကို ကျွန်ပြုခြင်း စသည့်ပြစ်ဒဏ်များ ခတ်ထိုက်ပေသည်။ သို့သော်လည်း ကိုယ်တော်မြတ် ﷺက ၎င်းတို့ကို(၄)ခု သော အခွင့်အရေးများ ပေးခဲ့ပါသည်။

၁။ ၎င်းတို့အား အသက်ချမ်းသာပေးလိုက်သည်။

၂။ ၎င်းတို့၏ ယဟူဒီဘာသာအပေါ် လွတ်လပ်စွာ ရပ်တည်ကိုးကွယ်ခွင့်ပြုလိုက်သည်။

၃။ ၎င်းတို့၏ နေအိမ်များ၊ ခြံများတွင် ပြန်လည် နေထိုင်ခွင့်ပြုပေးလိုက်သည်။

၄။ ခိုင်ဗရ်ထွက်သီးနှံတစ်ဝက်ကိုလည်း စံစားခွင့်ပေးလိုက်သည်။

## ကိုယ်တော်မြတ် ﷺ ထံ ခစားလာသော ဆွဖီယဟ်သခင်မ

ဖမ်းဆီးခံရသူများထဲတွင် ဗနူနဒ်ွီးရ်ခေါင်းဆောင် ဟုယိုင်ယ်၏ သမီးလည်း ပါဝင်ကြောင်း ကိုယ်တော်မြတ်ﷺထံ သတင်း ရောက်သောအခါ ကိုယ်တော်မြတ်ﷺက ဘေလားလ် رَضِيَ اللَّهُ عَنْهُ အား ၎င်းတို့ကို ခေါ်ဆောင်လာရန် အမိန့်ပေးခဲ့သည်။ သခင်ကလည်း သတ်ဖြတ်ခံရသည့် အလောင်းများကြားမှ သခင်မနှင့်သခင်မ၏ ညီ အစ်မဝမ်းကွဲကို ခေါ်ဆောင်လာခဲ့သည်။ ထိုအလောင်းများတွင် ဦးလေး၊အစ်ကို၊ခင်ပွန်းတို့၏အလောင်းများလည်းပါဝင်နေသည်။

သခင်မကြီးက ဝမ်းနည်းကြေကွဲစွာဖြင့် ကြည့်ရှုရင်း မျက်စိကို မှိတ်အံကြိတ်ကာ မျက်ရည်စများကို မျက်လုံးအိမ်ထဲတွင် သိမ်းဆည်း နေသည်။ ဝမ်းကွဲညီမက မထိန်းနိုင်တော့ဘဲ ရင်ထုကာ အော်ဟစ်ငို ကြွေးတော့သည်။

တမန်တော်မြတ် ﷺက ဘေလားလ် သခင်ကို “အသင့် ရင်ထဲမှာ အကြင်နာစိတ် ပျောက်ဆုံးသွားပြီလား၊ သူတို့မိဘတွေဆွေမျိုး တွေရဲ့ အလောင်းကြားကနေ သူတို့ကို ခေါ်ဆောင်လာရသလား…။”ဟု ဆူငေါက်ခဲ့သည်။

ဆွဖီယာဟ်သခင်မ၏ ဖခင်သည် ကိုယ်တော်ﷺ နှင့် မွတ်စ်လင်မ်အပေါင်းတို့ ကို ဆယ်စုနှစ်တစ်စုတိုင် ဒုက္ခများပေးခဲ့သည်။ သခင်မ၏ ခင်ပွန်းသည်လည်း ကမ်းကုန်အောင် ဒုက္ခပေးခဲ့သည်။ သခင် မ၏ အမျိုးသားတို့သည်လည်း မုအ်မင်န်တို့အပေါ် ရက်စက်ခဲ့ကြသည်။

သို့သော်လည်း ကိုယ်တော်မြတ်ﷺက သခင်မကို အောက်ပါ အတိုင်းမိန့်ကြားခဲ့သည်။

၁။ အသင်မကို ငါကိုယ်တော် သူကောင်းပြုလိုက်ပြီ။

၂။ အသင်မကို အစ္စလာမ် လက်ခံရန် ငါကိုယ်တော် ဖိတ်ခေါ်သည်။

၃။ အသင်မ လက်ခံမည်ဆိုလျှင် ဂုဏ်သိက္ခာရှိစွာဖြင့် အသိမကို ငါ့ထံ ထားမည်။

၄။ အသင်မအနေဖြင့် မိမိ၏ဘိုးဘွားတို့၏ သာသနာပေါ်တွင် ဆက်လက်ရပ်တည်လိုပါက အသင်မကို မိမိနေရပ်သို့ လွတ်လပ်စွာ ပြန်ခွင့်ပြုပေးမည်။

ကိုယ်တော်မြတ်ﷺ၏ မိန့်ကြားချက်ကိုကြားပြီးနောက် သခင်မက အစ္စလာမ်သာသနာကို လက်ခံခဲ့သည်။ "အို..ကိုယ်တော်၊ ကျွန်မသည် ယဟူဒီသာသာနာကို စွန့်လွှတ်လိုက်ပြီ။ အရှင်မြတ်က ကျွန်မ၏ နှလုံးသားကို အလ္လာဟ်အရှင်မြတ်နှင့် ရစူလ်ကိုယ်တော်မြတ် အပေါ် အီမာန် ယုံကြည်ခြင်းအလင်းဖြင့် လင်း၀င်းစေလိုက်ပြီ။" ဟု လျှောက်ထားခဲ့သည်။

အဗူဒါဝူးဒ်ကျမ်းလာ အနတ်စ်رَضِيَ ٱللَّهُ عَنْهُ သခင်၏ ဆင့်ပြန်ချက်အရ "ခိုင်ဗရ်အောင်နိုင်ပြီးနောက် သုံ့ပမ်းများစုရုံး ရောက်ရှိလာသောအခါ ဒိဟ်ယာဟ် ကလ်ဗီرَضِيَ ٱللَّهُ عَنْهُသခင်က ကိုယ်တော်မြတ်ﷺထံမှ ကျွန်မတစ်ဦး တောင်းဆိုခဲ့သည်။ ကိုယ်တော်မြတ်ﷺက အသင်ကြိုက်နှစ်သက်သူကို ယူလိုက်ပါ"ဟု မိန့်ကြားလိုက်ရာ ဆွဖီယာ

သခင်မသည် ဒိဟ်ယဟ်သခင့် လက်ဝယ်သို့ ရောက်ရှိခဲ့သည်။ ဆွဟာဗာအပေါင်းတို့က "အို..အရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၊ ဆွဖီယဟ်သည် ဗနူနဇွီးရ်၊ ဗနူကိုရိုင်ဇွာဟ်တို့၏ တော်ဝင်မင်းသမီးဖြစ်သည်။ ဂုဏ်သိက္ခာ၊ မွန်မြတ်တို့၏ ပြယုဂ်လည်းဖြစ်သည်။ ကိုယ်တော်သာလျှင် သူမနှင့် အထိုက်တန်ဆုံးဖြစ်ပါသည်။"ဟု လျှောက်ထားခဲ့သည်။ ထိုအခါ ကိုယ်တော်မြတ်ﷺက ဒိဟ်ယဟ်သခင့်ကို ကျွန်မတစ်ဦး အစားချီးမြှင့်ခဲ့ပြီး ဆွဖီယဟ်သခင်မကို ခေါ်တော်မူပြီး အထက်ပါအတိုင်း ရွေးချယ်ခွင့်ချီးမြှင့်ခဲ့သည်။

အချုပ်ဆိုရသော် ဆွဖီယာဟ် သခင်မ အစ္စလာမ် လက်ခံပြီးနောက် ကိုယ်တော်မြတ် ﷺက အနတ်စ်သခင်၏မိခင် အွမ္မေ့စိုလိုင်းမ်ထံ လိုအပ်သည်များကို သင်ယူရန် အပ်နှံလိုက်သည်။

## ခိုင်ဗရ်တွင် ရက်အချို့

ကိုယ်တော်မြတ်ﷺသည် ခိုင်ဗရ်အောင်နိုင်ပြီးနောက်ပိုင်း ရက်အချို့ ဆက်လက်နေထိုင်ခဲ့သည်။ ထို့နောက် ခိုင်ဗရ်တစ်ခွင်တွင် စစ်ရှုံးယဟူဒီများအားလုံးကိုလည်း အသက်ချမ်းသာခွင့်၊ လွတ်လပ်စွာသွားလာခွင့်၊ မိမိတို့ဘာသာကို လွတ်လပ်စွာ ကိုးကွယ်ခွင့်ပေးခဲ့သည်။

ဤကာလအတွင်း ယဟူဒီအချို့က ကိုယ်တော့်ကို ဒအ်ဝသ် ဖိတ်ကျွေးခဲ့သည်။ ၎င်းတို့၏ ယုတ်မာကောက်ကျစ်မှုများကို ကိုယ်တော်

ကောင်းစွာ သိသော်လည်း ဖိတ်ကြားသူ၏ ဖိတ်ကြားမှုကို သဘောထား ကြီးစွာ လက်ခံလိုက်သည်။

မိရှ်ကမ်၏ဇနီး ဇိုင်နဗ်က ကိုယ်တော် ﷺ သုံးဆောင်မည့် အသားတွင် အဆိပ်ထည့်လိုက်သည်။ ကိုယ်တော်မြတ် ﷺက လည်း ပထမတစ်လုပ်သုံးဆောင်ပြီး ချက်ချင် ထွေးထုတ်လိုက်သည်။ ထို့နောက် ဇိုင်နဗ်အား ခေါ်ပြီး မေးမြန်းရာ သူမကလည်း ဝန်ခံခဲ့သည်။

အကြောင်းကိုမေးရာ သူမက "ကိုယ်တော်ဟာ ကျွန်မအမျိုးသား တွေကို သေးသိမ်အောင်ပြုလုပ်ခဲ့တယ်။ ကျွန်မစဉ်းစားသည်မှာ ကိုယ် တော်ဟာ သာမန် ဘုရင်တစ်ပါးဆိုလျှင် အဆိပ်သင့်ပြီး သေဆုံးမည်။ ကျွန်မတို့လည်း ကိုယ်တော့်ရန်က လွတ်မြောက်သွားမည်။ ကိုယ်တော် သာ အမှန်တကယ် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်မြတ် ဖြစ် ပါလျှင် အရှင်မြတ်ကိုယ်တော်တိုင်က ဤအသားတွင် အဆိပ်ရှိကြောင်း သတင်းပေးမည်။" ဟု လျှောက်ထားလိုက်သည်။

ကိုယ်တော်မြတ် ﷺကလည်း သူမကို ခွင့်လွှတ်ပေး လိုက်သည်။ ကိုယ်တော်နှင့်အတူ ဤထမင်းစားဝိုင်းတွင် ပါဝင်သည့် ဗိရှ်ရ်ဗင်နဗရားအ် رَضِيَ ٱللَّٰهُ عَنْهُမှာ နှစ်ရက်သုံးရက်ကြာပြီးနောက် အဆိပ်သင့် ကာ ကွယ်လွန်သွားခဲ့သည်။

## ခိုင်ဗရ် အပြန်ခရီး

ကိုယ်တော်မြတ် رَضِيَ ٱللَّٰهُ عَنْهُက ဆွဖီယာဟ်သခင်မကို မည်သို့မည်ပုံ လက်ခံထားသည်ကို မွတ်စ်လင်မ်အပေါင်းတို့က ကောင်းစွာ မသိရှိကြ ချေ။ ကျွန်မအဖြစ်(သို့)ကြင်ယာအဖြစ်...။ ခိုင်ဗရ်တွင် ကိစ္စအားလုံး ပြီး

ဆုံးပြီးနောက် ကိုယ်တော်မြတ် ﷺက သခင်မကို မိမိနှင့်အတူ ကုလားအုတ်ပေါ်တွင် စီးနင်းလိုက်ပါစေသည်။

ကုလားအုတ်ပေါ် သူမလွယ်ကူစွာ တက်နိုင်ရန် ကိုယ်တော်မြတ် ﷺက မိမိပေါင်တော်အား ခင်းပေးလိုက်သည်။ သခင်မကလည်း နဗီတမန်တော်မြတ်အား အရိုအသေပေးသည့်အနေဖြင့် ကိုယ်တော့် ပေါင်တော်အပေါ်နင်းပြီး ကုလားအုတ်ပေါ် တက်ခြင်းကို ငြင်းဆန်ခဲ့ သည်။ ကိုယ်တော်မြတ်ﷺက မိမိ၏ ခြုံထည်ဖြင့် သခင်မကို ပရ်ဒဟ်(ခြုံပေးပြီး)မုအ်မင်န်အပေါင်းတို့၏ မိခင်မွန်ဘွဲ့ထူးကို ချီးမြှင့်ခဲ့ သည်။

## ဆွဖီယာသခင်မနှင့် နေကာပြုခြင်းအခမ်းအနား

ခိုင်ဗရ်မှအပြန် မဟ်ဗာအမည်ရှိနေရာသို့ရောက်ရှိသောအခါ ကိုယ်တော်မြတ်ﷺသည် ဆွဖီယာဟ်သခင်မနှင့် နေကာပြုခဲ့ သည်။ ထိုအချိန်သခင်မ၏ သက်တော်မှာ (၁၇)နှစ်ဖြစ်သည်။ သူ ကောင်းပြုခြင်းကို မဟရ်အဖြစ်သတ်မှတ်လိုက်သည်။ အွမ္မေ့စိုလိုင်းမ် رَضِيَ ٱللَّهُ عَنْهَاသခင်မကြီးက ဆွဖီယာဟ်رَضِيَ ٱللَّهُ عَنْهَاသခင်မကို အလှပြင်ပေးပြီး သတို့သမီးအဝတ်အစားများ ဆင်မြန်းပေးလိုက်ကာ အခန်းအပ်ခဲ့သည်။

ကိုယ်တော်မြတ် ﷺသည်လည်း သခင်မနှင့် ပတ်သက် ပြီး စိတ်ချ ကျေနပ်ခဲ့သည်။ သခင်မကလည်း ကိုယ်တော့်ကြင်ယာတော် ဖြစ်ခြင်းနှင့် မုအ်မင်န်တို့၏ မိခင်မွန် ဖြစ်ခွင့်ရသောကြောင့် ပျော်၍မဆုံး ပြုံးမဝနိုင်ဖြစ်ခဲ့သည်။

## သမိုင်းတွင်သွားသည့် ဝလီမာ (မင်္ဂလာဧည့်ခံပွဲ)

အလ္လာဟ်မဟ် အိမ်နေ့ စအဒ်က အနတ်စ်رَضِيَ اللَّهُ عَنْهُသခင်ဆင့်ပြန်သည့် ဆွဖီယာဟ်رَضِيَ اللَّهُ عَنْهَاသခင်မအတွက် မဟ်ဗာတွင် ကိုယ်တော်မြတ် صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ ပြုလုပ်ပေးသော ဝလီမာဧည့်ခံပွဲအကြောင်းကို ပြောပြသည်။ "နောက်နေ့နံနက် ကိုယ်တော်မြတ် صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ က အသင်တို့ထံရှိသမျှစားစရာများ ငါ့ထံယူလာကြပါဟု ကြေညာလိုက်သည်။ ဤကြေညာသံကို ကြားသည်နှင့် ဆွဟာဗာတို့အနက် အချို့က စွံပလွံသီး၊ အချို့က ပဲမှုန့်ဂျုံမှုန့်လှော်များ၊ အချို့က ထောပတ်များ ယူလာကြသည်။ ဤသည်တို့ကို ရောစပ်ကာ စားစရာတစ်ခု ချက်ပြုတ်လိုက်သည်။ သားရေထမင်းစားခင်းတစ်ခုပေါ် ချစေပြီး သမိုင်းတွင်မည့် နဗီကြီး တည်ခင်းဧည့်ခံသော မင်္ဂလာစားသောက်ဖွယ်ရာအား ဆွဟာဗာအားလုံး မြိန်ရည်ရှက်ရည်စားသောက်ကြသည်။

## မဒီနာရွှေမြို့တော်သို့

အနတ်စ်رَضِيَ اللَّهُ عَنْهُသခင်ပြောပြသည်မှာ။ "မဒီနာသို့အပြန်ခရီးတွင် ဆွဟာဗာအပေါင်းတို့သည် ပျော်ရွှင်လွန်းအားကြီးပြီး အစီးအနင်းများကို ဒုန်းစိုင်းမောင်းနှင်ကြသည်။ ကျွန်ုပ်သည် အဗူသွလ်ဟား၏နောက်တွင် စီးနင်းလိုက်ပါလာခဲ့သည်။ ကိုယ်တော့်ကုလားအုတ်ဦးစီးမှာ ခြေချော်သွားသဖြင့် ကိုယ်တော်صَلَّى اللَّهُ عَلَيْهِ وَسَلَّمَနှင့် ဆွဖီယာဟ်သခင်မတို့ ပြုတ်ကြခဲ့သည်။ အဗူသွလ်ဟာသခင်က "အို..ကိုယ်တော် ဒဏ်ရာ ရသွားပါသ

လား”ဟု မေးလျှောက်ရာ ကိုယ်တော်က “ဆွဖီယာဟ် ဒဏ်ရာရသွား သလား အရင်မေးလိုက်ပါ။ ငါအဆင်ပြေပါတယ်” ဟု မိန့်ကြားလိုက်သည်။

မဒီနာသို့ဝင်သောအခါ ကိုယ်တော်မြတ် ﷺ က

آئِبُونَ تَائِبُونَ عَابِدُونَ، لِرَبِّنَا حَامِدُونَ.

“ကျွန်ုပ်တို့ အပြစ်များမှ သောင်ဝ်ဗဟ်ပြုသူများအဖြစ်၊ အရှင့်ကို အေဗာဒသ်ခဝပ်သူများအဖြစ်၊ ကျွန်ုပ်တို့ ဖန်ဆင်းရှင်အား ချီးမွမ်းထောပနာ ပြုသူများအဖြစ် ဘေးမသီရန်မခ၊ ခလုပ်မထိ ဆူးမညို ပြန်လှည့်လာကြပြီ”ဟု ရွတ်ဆိုလိုက်သည်။

## ပျော်ရွှင်ဖွယ်ရာ မဒီနာမြို့မှာ

မဒီနာရှိ မွတ်စ်လင်မ်တို့ကလည်း ခိုင်ဗရ်မှာ အောင်နိုင်စွာ ပြန်လာခဲ့သော မွတ်စ်လင့်မ် စစ်တပ်ကြီးကို သောင်းသောင်းဖျဖျ ကြိုဆိုခဲ့ကြသည်။ နှစ်ပေါင်းများစွာ ရန်ပြုနေခဲ့သော ယဟူဒီတို့၏ နှောင်ယှက်မှုများလည်း တစ်ခန်းရပ်သွားခဲ့ချေပြီ။ ဆွဟာဗာအပေါင်းတို့သည်လည်း ကိုယ်တော်မြတ် ﷺ နှင့် တွေ့ဆုံရန်၊ ကောင်းချီးသြဘာပေးရန် အုပ်စုလိုက် အုပ်စုလိုက် အခစားဝင်နေကြသည်။

ကိုယ်တော်မြတ် ﷺ က မိခင်မွန်အာအေ့ရှာအား “ဆွဖီယာဟ်ကို အသင်မဘယ်လို မြင်ပါသလဲ”ဟု မေးမြန်းရာ သခင်မက “သူမဟာ ယဟူဒီတစ်ဦးမဟုတ်လား”ဟု ပြန်လည် ဖြေကြားခဲ့သည်။ ကိုယ်တော်မြတ် ﷺ က “အို..အာအေ့ရှာ နောင်ဆို အဲ့လို ပြောလို

မရတော့ဘူး…။ သူမက စိတ်နှလုံးသားဖြူစင်စွာနဲ့ အီမာန်ယူလိုက်ပြီ”ဟု မိန့်ကြားခဲ့သည်။

ဖွာသွေ့မဟ်رضي الله عنهاသခင်မကြီးသည်လည်း မိခင်မွန် ဆွဖီယာဟ် သခင်မနှင့် တွေ့ဆုံရန် ရောက်လာခဲ့သည်။ ဤသို့ ထိမ်းမြားခြင်းသည် နောင်ပိုမိုကောင်းမွန်သည့် အလားအလာများအတွက် နိဒါန်းဖြစ် ကြောင်းကိုလည်း မှတ်ချက်ပြုခဲ့သည်။

## နဗီ့အေးရိပ်ဆာယာအောက်တွင်

ဘုံနန်းဆောင်များတွင်နေထိုင်ခဲ့သည့်ဘုရင့်သမီးတော်ဆွဖီယာ သခင်မသည် အုပ်စိမ်းများဖြင့် မပီမပြင်တည်ဆောက်ထားသည့် နဗီချီး မြှင့်ထားသော အခန်းကျဉ်းလေးထဲတွင် ပီတိကိုစားရင်း ပြုံးပျော်နေ လေရဲ့….ယခု ဝိညာဉ်အာဟာရ ဉာဏ ချမ်းသာမှု ရရှိလေပြီ။

ခိုင်ဗရ် အောင်နိုင်ပြီးနောက် ကိုယ်တော်မြတ်ﷺသည် အားလုံး သော မိခင်မွန်များကို နှစ်စဉ် (ဝစတ်က်(၈၀)= (၁၀၄၃၂)ကီလိုဂရမ်၊ မုယောဆန် ဝစတ်က်(၂၀)= (၂၆၀၈) ကီလို ဂရမ်)ပေးရန် သတ်မှတ်ခဲ့ သည်။ ဤပမာဏကို မိခင်မွန်တို့ ကြိုက်နှစ်သက်သလို စီမံနိုင်သည်။ ဤပမာဏကို မိခင်မွန် ဆွဖီယာဟ်သခင်မကြီးသည်လည်း ရရှိခဲ့သည်။

သခင်မသည် ရသာစုံလင် စားသောက်ဖွယ်ရာများဖြင့် ကိုယ်တော်မြတ်صلى الله عليه وسلمနှင့် မိခင်မွန်အပေါင်းတို့ကို တည်ခင်းဧည့်ခံ လေ့ရှိသည်။ ထို့ကြောင့် မိခင်မွန် အာအေ့ရှာ သခင်မက “ ဆွဖီယဟ် သခင်မထက် ပိုပြီး စားကောင်းသောက်ဖွယ်ရာများ စီမံတတ်သူဟူ၍ ကျွန်မ မတွေ့ဖူးပါ”ဟု ပြောဖူးသည်။

## ဟဂ်ျပြုခြင်း

ဟစ်ဂျ်ရီ(၁၀)ခုနှစ်တွင် မိခင်မွန် ဆွဖီယာဟ်သခင်မသည်လည်း ကိုယ်တော်မြတ် ﷺနှင့် ဟဂ်ျဂျသုလ် ဝဒါအ်တွင် ပါဝင်ခွင့်ရရှိခဲ့သည်။ သခင်မသည် ဟဂ်ျကျင့်စဉ်များကို စနစ်တကျ လေ့လာမှတ်သားပြီး နောက်ပိုင်းတွင် မွတ်စ်လင်မ်အမျိုးသမီးတို့အား သင်ကြားပို့ချပေးခဲ့သည်။

## ချစ်နဗီကွယ်လွန်ချိန်

ကိုယ်တော်မြတ် ﷺ ဝဖားသ်ဖြစ်ကွယ်လွန်ချိန် သခင်မ၏ အသက်မှာ (၂၁နှင့်၂၂နှစ်)ကြား ဖြစ်သည်။ သခင်မသည် အလွန်ပင်ကြေကွဲခဲ့ရသည်။ အားလုံးသော မိခင်မွန်တို့အတွက် နောက်ခံ မျိုးနွယ်များ၊ မိသားစုများ ရှိနေသည်။

စောင်ဝ်ဒဟ်သခင်မအတွက် ဗနူလိုအိုင်ယ်မျိုးနွယ်၊ အာအေ့ရှာသခင်မအတွက် ဗနူသိုင်းမ်၊ ဟဖ်ဆွာသခင်မအတွက် အဒီမျိုးနွယ်၊ အွမ္မေ့စလမဟ် သခင်မအတွက် ဗနူမခ်ဇူးမ်မျိုးနွယ်၊ ဇိုင်နဗ်ဗင်န်သေ့ဂျဟဂ်ျအတွက် အောင်ဝ်စ်မျိုးနွယ်၊ အွမ္မေ့ဟဘီဘာ သခင်မအတွက် ဗနူအိုမိုင်ယဟ်မျိုးနွယ် စသဖြင့် အသီးသီးရှိနေသည်။

သခင်မ၏မျိုးနွယ်ဖြစ်သောဗနီနဇီးရ်တို့အနက် ကျန်ရှိသူများမှာလည်း ယဟူဒီဘာဝဒ္ဓပင် ရှိနေသေးသည်။ ဤသို့ဖြင့် သခင်မသည် မျိုးနွယ်လက်မဲ့ဖြစ်ခဲ့ရသော်လည်း မုအ်မင်န်အပေါင်းတို့က ဤမိခင်မွန်ကို လိုလေသေးမရှိ စောင့်ရှောက်ခဲ့ပြီး ဤသိမ်ငယ်စိတ်ကို မေ့လျော့စေခဲ့သည်။

## ကိုယ်တော်မြတ် ﷺ ဝဖားသ်ဖြစ်ပြီးနောက်

ဆွဖီယာဟ်သခင်မကို အရှင်မြတ်က ငယ်ရွယ်စဉ်ကပင် ထက်မြက်မှုများ ချီးမြှင့်ထားသည်။ စာပေကျမ်းဂန်များနှင့် ကောင်းမွန်သော အထိအတွေ့ရှိခဲ့သည်။ ဉာဏ်ရည်လည်း ထက်မြက်လွန်းသဖြင့် ကိုယ်တော်မြတ် ﷺ ဝဖားသ်ဖြစ်ပြီး နောက်ပိုင်း မဒီနာမြို့ရှိ အမျိုးသမီးများကို သာသနာ့အမိန့်တော်များအား လက်ဆင့်ကမ်းပေးခဲ့သည်။ ပြည်ပမှ အမျိုးသမီးပေါင်းများစွာကလည်း သခင်မထံမှ များစွာသော အသိပညာများ ဆည်းပူးခဲ့သည်။ အထူးသဖြင့် ကူဖာမှ အမျိုးသမီးများသည် သခင်မထံမှပညာရပ်များကို လာရောက်ဆည်းပူးခဲ့သည်။

သခင်မ အနေဖြင့် ကိုယ်တော်မြတ်ﷺထံမှ ဟဒီးဆ်တော်ပေါင်း (၁၀)ပုဒ်ဆင့်ပြန်ခဲ့သည်။

## သခင်မ၏ နှလုံးရည်

သခင်မ၏ ကျွန်မတစ်ဦးသည် သမ္မတကြီးအိုမရ်رَضِيَ ٱللَّٰهُ عَنْهُ သခင်ထံ သခင်မနှင့်ပတ်သက်ပြီး မဟုတ်မမှန် လုပ်ကြံတိုင်ကြားခဲ့သည်။ သခင်က အဖြစ်မှန်ကို စုံစမ်းကြည့်ရာ လိမ်လည် တိုင်ကြားခြင်းဖြစ်ကြောင်း ဆုံးဖြတ်ချက်ချလိုက်သည်။

သခင်မက တိုင်တန်းသည့် ကျွန်မကို "အသင်မ ဘာကြောင့် တိုင်ကြားသနည်း။"ဟု မေးမြန်းရာ ကျွန်မက ရှိုင်သွာန်၏စေ့ဆော်မှုကြောင့်ဖြစ်သည်ဟု ပြောလိုက်သည်။ သခင်မက "အရှင်မြတ်အတွက် အသင်မကို ငါသူကောင်းပြုလိုက်ပြီ" ဟု မိန့်ကြားခဲ့သည်။

ဟစ်ဂျ်ရီ(၃၅)ခုနှစ်တွင် ဘလ်ဝါအီတို့က အွတ်ဆ်မားန်رَضِيَ ٱللَّهُ عَنْهُ သခင်ကို ဖမ်းဆီးချုပ်နှောင်ခဲ့သည်။ အစာရေစာ ဖြတ်တောက်ခဲ့ကြသည်။ သခင်မသည် အစာရေစာ ပို့ဆောင်ရန် အမျိုးမျိုး အကြံထုတ်ခဲ့သည်။ သို့ရှိရာသခင်မက အွတ်ဆ်မားန်رَضِيَ ٱللَّهُ عَنْهُ သခင်ချုပ်နှောင်ခံရသည့် အိမ်တံတိုင်းအပေါ် သစ်သားပြား တစ်ချောင်းထောင်ပြီး အစားအစာ များပေးပို့ခဲ့သည်။

## မိခင်မွန် ဆွဖီယဟ် သခင်မ၏ ကွယ်လွန်တော်မူခြင်း

အိဗ်နေ့ စအဒ်رَحِمَهُ ٱللَّهُ၏ ဆင့်ပြန်ချက်အရ မိခင်မွန် ဆွဖီယဟ်رَضِيَ ٱللَّهُ عَنْهَاသခင်မသည် ဟစ်ဂျ်ရီ (၅၀)ခုနှစ်၊ လမြတ်ရမ်ဇာန်၊ မိုအာဝီယဟ်رَضِيَ ٱللَّهُ عَنْهُသခင်ကြီး အုပ်ချုပ်စဉ်ကာလတွင် ကွယ်လွန်ခဲ့သည်။ ကွယ်လွန်ချိန် သခင်မ၏သက်တော်မှာ (၆၁)နှစ်ဖြစ်သည်။ ဗကီးအ် သင်္ချိုင်းတော်တွင် မြှုတ်နှံခံခဲ့ရသည်။

## မိခင်မွန် ဆွဖီယာဟ် رَضِيَ ٱللَّٰهُ عَنْهَا ၏ ဘဝမှ သင်ခန်းစာများ

၁။ အမည်နှင့်လိုက်ဖက်စွာ ကိုယ်ကျင့်တရား သန့်စင်ခြင်း၊ စိတ်နှလုံး သားဖြူစင်ခြင်း၊ စိတ်ကောင်းစေတနာရှိခြင်း။

၂။ အမှန်တရားကိုသာ အမြဲတစေ နှစ်သက်ပြီး၊ အမှန်တရားနောက်ကို လိုက်ခြင်း။

၃။ မိမိစိတ်ကို ထိန်းနိုင်ခြင်း။

၄။ ရွေးချယ်မှုမှန်ကန်ခြင်း။

၅။ တစ်ပါးသူအား ကူညီလိုစိတ်ရှိခြင်း။

၆။ ကိုယ်တော်မြတ် صَلَّى ٱللَّٰهُ عَلَيْهِ وَسَلَّمَကို ရင်ထဲအသဲထဲမှ နှစ်နှစ်ကာကာ ချစ်မြတ်နိုးခြင်း။

၇။ စိတ်သဘောထား မြင့်မြတ်ခြင်း၊ သဘောထားကြီးခြင်း။

**(၁၁) မိခင်မွန် မိုင်မူနဟ် ဗင်န်သေ့ အလ်ဟာရိဆ် رَضِيَ ٱللَّهُ عَنْهَا နှင့် တဒင်္ဂ**

**ချစ်နဗီ صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَ ၏ နောက်ဆုံး ကြင်ယာတော်၊ သခင်မ၏ မင်္ဂလာဖြင့် မက္ကာဟ်အောင်နိုင်ခြင်း၊ နဂျ်ဒ်ဒေသတွင် ငြိမ်းချမ်းသာယာမှု ကွန်ယက်ဖြန့်ကျက်နိုင်ခဲ့ခြင်းတို့ဖြစ်ခဲ့သည်။**

အမည် - မိုင်မူနဟ် (ယခင်အမည် ဗရ်ရဟ်)

မျိုးရိုးစဉ်ဆက် -

ميمونة بنت الحارث بن حزن بن بجير بن الهزم بن رويبة بن عبد الله بن هلال بن عامر بن صعصعة بن معاوية بن بكر بن هوازن بن منصور بن فقيفة بن قيس بن عيلان ، الهلالية.

ဘွဲ့ထူး - မုအ်မင်န်တို့၏မိခင်မွန်

ဖခင် - အလ်ဟာရိဆ်ဗင်န် ဟဇ်မ်

မိခင် - ဟင်န်ဒ်ဗင်န်သေ့အောင်ဝ်ဖ်

မွေးချင်းမောင်နှမ - အရင်းအချာ(၄)ဦး၊ အမေတူညီအစ်မ (၄)ဦး

ယခင်အိမ်ထောင်ဆက် - မတ်စ်အူးဒ်ဗင်န် အမ်ရ် စကဖီ၊ အဗူရုဟ်မ် ဗင်န် အဗ်ဒုလ်အုဇ္ဇာ (ကျော်ကြားသော ဆွဟာဗီ အဗူစဗ်ရဟ်၏ ဖခင်)

ဖွားမြင်ခြင်း - ဟစ်ဂျ်ရည် မတိုင်မီ(၂၉)နှစ် = ခရစ်နှစ်(၅၉၄)ခု

ဖွားမြင်သည့်နေရာ - မက္ကာဟ်ရွှေမြို့တော်

ကွယ်လွန်တော်မူခြင်း - ဟစ်ဂျ်ရီ(၅၁)ခု = ခရစ်နှစ်(၆၇၃)

ကွယ်လွန်သည့် နေရာ - စရိဖ်

ဆင့်ပြန်ခဲ့သည့် ဟဒီးဆ်တော်ပေါင်း - (၁၂) (သို့) (၇၂)ပုဒ်

ကိုယ်တော်မြတ် ﷺနှင့် နေထိုင်ခွင့်ရခဲ့သည့် ကာလ -

## မိခင်မွန် မိုင်မူနဟ်رَضِيَ ٱللَّهُ عَنْهَا ၏ အတ္ထုပ္ပတ္တိအကျယ်

မိခင်မွန် မိုင်မူနဟ် رَضِيَ ٱللَّهُ عَنْهَاသည် ကိုယ်တော်မြတ်ﷺ၏ နောက်ဆုံး ကြင်ယာတော်ဖြစ်သည်။ မူရင်းအမည်မှာ ဘရ်ရဟ်ဖြစ်သည်။ ဗနီကိုင်စ်ဗင်န်အိုလားန်မျိုးနွယ်မှဖြစ်ပြီး ဟာရိဆ်နှင့် ဟင်န်ဒ်တို့၏ သမီးမြတ်ရတနာဖြစ်သည်။

### ညီအစ်မအရင်းအချာ(၄)ဦး

(၁) လိုဗာဗာဟ် အလ်ကုဗ်ရာ (အွမ်မုလ်ဖသွ်လ်) ကိုယ်တော်မြတ် ﷺ၏ ဦးရီးတော် အဗ္ဗါးစ်رَضِيَ ٱللَّهُ عَنْهُ၏ ကြင်ယာ။ အိဗ်နေ့ အဗ္ဗါးစ် رَضِيَ ٱللَّهُ عَنْهُمَا သခင်၏ မိခင်။

(၂) လိုဗာဗဟ် စုဂ်ရာ - ခါလိဒ်ဗင်န်ဝလီးဒ် သခင်၏ မိခင်။ ဖခင်မှာ ဗနူမခ်ဇူးမ်နွယ်ဝင်ဖြစ်သည်။

(၃) အဆ္မ်မားအ် - အိုဟိုဒ်စစ်ပွဲတွင် အသက်ခံခဲ့ရသည့် အိုဗိုင်ယ်ဗင်န်ခလဖ်၏ ဇနီး။

(၄) ဟာဖ်ီဒဟ် - အဗ်ဒုလ္လာဟ်ဗင်န် မာလိက် ဟော့လာလီ၏ ဇနီး။

ဤညီအစ်မ(၄)ဦးအပြင် အမေတူညီအစ်မ(၄)ဦးလည်းရှိသေးသည်။ ၎င်းတို့သည် အစ္စလာမ့်အာဇာနည်တို့၏ ဇနီးများအဖြစ် မော်ကွန်းဝင်ခဲ့သည်။

(၁) အတ်စ်မာအ်ာ ဗင်န်သေ့ အိုမိုင်းစ်رَضِيَ ٱللَّهُ عَنْهَا - မော်ဝ်သဟ်စစ်ပွဲတွင် ရှဟီးဒ်ဖြစ်ခဲ့သော ဂျအ်ဖရ်ဗင်န်အဗီသွာလိဗ်رَضِيَ ٱللَّهُ عَنْهُသခင်၏ ဇနီး။

(၂) စလ်မဟ် ဗင်န်သေ့ အိုမိုင်းစ်رَضِيَ ٱللَّهُ عَنْهَا - အိုဟိုဒ်စစ်ပွဲတွင် ရှဟီးဒ်ဖြစ်ခဲ့သော ကိုယ်တော်မြတ်صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَ ၏ အချစ်ရဆုံး ဘကြီးတော် ဟမ်ဇား رَضِيَ ٱللَّهُ عَنْهُ၏ဇနီး။

(၃) စိုလာမဟ် ဗင်န်သေ့ အိုမိုင်စ်رَضِيَ ٱللَّهُ عَنْهَا - အဗ်ဒုလ္လာဟ်ဗင်န် ကအဗ် رَضِيَ ٱللَّهُ عَنْهُသခင်၏ ဇနီး။

(၄) ဇိုင်နဗ် ဗင်န်သေ့ ခိုဇိုင်မဟ်رَضِيَ ٱللَّهُ عَنْهَا - အိုဟိုဒ်စစ်ပွဲတွင် ရှဟီးဒ်ဖြစ်ခဲ့သည့် အဗ္ဗဒုလ္လာဟ်ဗင်န် ဂျဟာရှ် رَضِيَ ٱللَّهُ عَنْهُသခင်၏ ဇနီး။ သခင်ရှဟီးဒ်ဖြစ်ပြီးနောက် ကိုယ်တော်မြတ်صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَက သခင်မနှင့် ထိမ်းမြားခဲ့ရာ မုအ်မင်န်အပေါင်းတို့၏ မိခင်မွန် ဖြစ်သွားခဲ့သည်။

သခင်မကြီး၏ ညီအစ်မတို့အား အကျယ်တဝင့်ဖော်ပြခြင်းသည် ကိုရိုင်ရှ်မျိုးနွယ်ဖြင့် သခင်မတို့၏ တော်စပ်မှုခိုင်မာကြောင်း တင်ပြရန်ဖြစ်သည်။

## အစ္စလာမ် လက်ခံခြင်း

သခင်မ၏ အစ္စလာမ်လက်ခံသည့် ခုနှစ်နှင့်ပတ်သက်ပြီး စီရသ် ပညာရှင်အများစုက ဖော်ပြမထားသော်လည်း အီဂျစ်နိုင်ငံ၏ ပညာရှင် ဒေါက်တာ မုဟမ္မဒ် ဟိုင်ကလ်က မိမိ၏ سيرة الرسول ကျမ်းတွင် ရှင်းလင်း ဖော်ပြထားသည်။ သခင်မသည် ဟစ်ဂျ်ရီ(၇)ခုနှစ်၊ ကိုယ်တော်မြတ် ﷺ အွမ်မရဟ်ကသွာပြုလုပ်ချိန် လက်ခံခဲ့သည်ဟု တင်ပြထား သည်။

မွတ်စ်လင်မ်တို့၏ ကိုယ်ကျင့်သိက္ခာမွန်မြတ်မှု၊ သန့်စင်သော လုပ်ရပ်များ၊ ၎င်းတို့၏ စည်းစနစ်ရှိမှုနှင့်အတူ အစ္စလာမ့် အရှိန်အဝါကို တွေ့မြင်ပြီးနောက် နှစ်သက်ကာ လက်ခံခဲ့ခြင်းဖြစ်သည်။

## ကိုယ်တော်မြတ် ﷺ နှင့် ထိမ်းမြားခြင်း

မိုင်မူနဟ်رَضِيَ ٱللَّٰهُ عَنْهَاသခင်မ၏ခင်ပွန်း အဗူရူဟ်မ်သည် ဟစ်ဂျ်ရီ (၇) ခုနှစ် အစပိုင်းတွင်ပင် ကွယ်လွန်သွားခဲ့သည်။ သခင်မကြီး၏ အနာဂတ် အိမ်ထောင်ရေး ကိစ္စအဝဝတို့သည် အဗ္ဗါးစ်သခင်၏ ကြင်ယာ အွမ္မုလ် ဖသွ်လ်رَضِيَ ٱللَّٰهُ عَنْهَا၏ လက်ဝယ်တွင် ရှိနေသည်။ အွမ္မရဟ် ပြုလုပ်ရန် ကြွ မြန်းလာသော ကိုယ်တော်မြတ် ﷺကို အဗ္ဗါးစ်رَضِيَ ٱللَّٰهُ عَنْهُသခင်က မိုင်မူနဟ်သခင်မ အစ္စလာမ် လက်ခံခဲ့သည့် ဖြစ်ရပ်မှန်ကို အကျယ်တဝင့် တင်ပြနေခဲ့သည်။ ထို့နောက် သခင်မကို ကြင်ယာတော်တင်မြောက်ရန် လည်း အကြံပြုနေခဲ့သည်။

ကိုယ်တော်မြတ်ﷺက ဦးရီးတော် အဗ္ဗါးစ်သခင်၏ တင်ပြချက်ကို လက်ခံသဘောတူပြီး မိုင်မူနဟ်رَضِيَ ٱللَّٰهُ عَنْهَاသခင်မကို ကြင်ယာတော် မြောက်ရန် ဆုံးဖြတ်လိုက်သည်။ မဟာရ်အဖြစ် ဒိရ်ဟမ်(ငွေဒင်္ဂါး၄၀၀) သတ်မှတ်လိုက်သည်။ ထိုအခါ ကိုယ်တော်မြတ် ﷺက ဘရ်ရဟ် (ခြောက်ပြစ်ကင်းသဲလဲစင်သူမ)ဟူသော အမည်အား မိုင်မူနဟ် (မင်္ဂလာ အပေါင်းခညောင်းသူမ)ဟု အမည် ပြောင်းလိုက်သည်။

ဤနေကာတွင် ကိုယ်စားလှယ်အဖြစ် အဗူရာဖေ့အ်သခင်နှင့် အောင်ဝ်စ်ဗင်န် အလ်ခေါင်ဝ်လာرَضِيَ ٱللَّٰهُ عَنْهُمَاတို့က ဆောင်ရွက်ပေးခဲ့သည်။ နေကာဟ်ပြုသည့် ရက်စွဲမှာ ဟစ်ဂျ်ရီ(၇)ခုနှစ်၊ ဇုလ်ကအ်ဒဟ်လမြတ် ဖြစ်သည်။ ဟု စီရသ်ပညာရှင်များက ဆိုကြသည်။

နေကာဟ်ပြုချိန် သခင်မ၏ သက်တော်မှာ (၂၇)နှစ်ဖြစ်သည်။ အဆိုတစ်ခုအရ (၅၁)နှစ်ဟုလည်း သိရသည်။

ကိုယ်တော်မြတ်ﷺသည် မက္ကဟ်ရွှေမြို့တော်နှင့် (၁၀) မိုင်အကွာရှိ “စရိဖ်”တွင် သခင်မနှင့် အခန်းအပ်ခဲ့သည်။ ဤ စရိဖ်တွင်ပင် သခင်မကြီးကွယ်လွန်ခဲ့သည်။ သခင်မကြီး၏ ကဗရ်သည်လည်း ယနေ့တိုင် “စရိဖ်”တွင်ရှိနေသည်။

ဤသို့ဖြင့် ဇိလ်ဟဂ်ျအစပိုင်းတွင်ပင် မဒီနာရွှေမြို့တော်သို့ ရောက်ရှိခဲ့သည်။

## ဤထိမ်းမြားမှု၏ မက္ကဟ်မြို့တော်အပေါ် အကျိုးသက်ရောက်ပုံ

ပြီးခဲ့သည့် စာမျက်နှာများတွင် ဖော်ပြခဲ့သည့်အတိုင်း ဟုဒိုင်ဗီယဟ်ငြိမ်းချမ်းရေးစာချုပ်ချုပ်ဆိုချိန်နောက်ပိုင်း ကာဖိရ် မုရှ်ရိက်တို့သည် မွတ်စ်လင်မ်တို့နှင့် လွတ်လပ်စွာ ထိတွေ့ခွင့်ရရှိခဲ့သည်။ ထို့နောက် မွတ်စ်လင်မ်တို့၏ ကိုယ်ကျင့်တရားများကိုလည်း အနီးကပ် လေ့လာခွင့်ရရှိခဲ့သည်။ မွတ်စ်လင်မ်တို့၏ ကိုယ်ကျင့်တရားများသည် ၎င်းတို့အပေါ် များစွာ သက်ရောက်ခဲ့သည်။ မိမိတို့ရပ်တည်နေသော လမ်းစဉ်များနှင့် သောင်ဝ်ဟီးဒ်တရားကို နှိုင်းယှဉ်ကြည့်လိုက်သောအခါ လိုအပ်ချက်များစွာကို သိရှိသွားကြသည်။ အစ္စလာမ်သာသနာတော်ကို စိတ်ဝင်စားလာကြသည်။ ထိုထက်ပိုပြီး ရဲရင့်စွာဖြင့် အစ္စလာမ် သာသနာတော်ကို လက်ခံလာကြသည်။ ဤဖြစ်ရပ်အပြီး ပထမဆုံး အစ္စလာမ် လက်ခံခဲ့သူမှာ မိခင်မွန် မိုင်မူနဟ် رَضِيَ ٱللَّٰهُ عَنْهَا သခင်မကြီး၏ တူအရင်းတော်စပ်သူ ခါလိဒ်ဗင်န်ဝလီးဒ် رَضِيَ ٱللَّٰهُ عَنْهُ သခင်ဖြစ်ခဲ့သည်။ အပေါင်းအသင်းများက ပြစ်တင်ကြသော်လည်း သခင်သည် မိမိရပ်တည်ချက်ပေါ်တွင် မားမား မတ်မတ်ရပ်တည်နိုင်ခဲ့သည်။ ခါလိဒ်ဗင်န်ဝလီးဒ်သခင်၏ အစ္စလာမ် လက်ခံခြင်းကြောင့် အစ္စလာမ့်ကာကွယ်ရေးအတွက် များစွာသော အင်အားများ ရရှိလာခဲ့ရသည်။

## ဤထိမ်းမြားမှု၏ နဂျ်ဒ်ဒေသအပေါ် အကျိုးသက်ရောက်ပုံ

နဂျ်ဒ်နယ်သားတို့သည် အစ္စလာမ်နှင့်မွတ်စ်လင်မ်တို့အပေါ် များစွာ အမုန်းထားကြသည်။ ဒိတ်ဒိတ်ကြဲ ဆွဟာဗီ(၇၀)ကျော်ကို သာသနာသင်ပေးရန် ပင့်ခေါ်ပြီး လှည့်ဖြားကာ ရှဟီးဒ်လုပ်ခဲ့ကြသူများလည်း ဖြစ်သည်။

ကိုယ်တော်မြတ်ﷺသည် မိုင်မူနာဟ် သခင်မနှင့် လက်ထပ်လိုက်သည့်အတွက် ဆွေမျိုးတော်စပ်သွားသည်။ ဤသို့ ဆွေမျိုးတော်စပ်ခြင်းကြောင့် ၎င်းတို့သည်ရန်ညှိုးမထားလိုတော့ပေ။

ဤအတိုင်းပင် မိုင်မူနာဟ် သခင်မ၏ ညီအစ်မတစ်ဦးဖြစ်သူ အဇ္ဇာဟ်(သို့) ဟဖီဒဟ်သည် နဂျ်ဒ်ရှိ ဟေလားလ်ဗင်န် အာမိရ်မျိုးနွယ်ခေါင်းဆောင် အဗ်ဒုလ္လာဟ်ဗင်န်မာလိက်နှင့် ထိမ်းမြားထားသည်။ သခင်မနှင့် ကိုယ်တော်မြတ် ထိမ်းမြားပြီးနောက် ဤမျိုးနွယ်ဝင်များသည် အစ္စလာမ်အတွက် သစ္စာခံများဖြစ်သွားကြသည်။ ကိုယ်တော့်အမိန့်နာခံတော့မည်ဖြစ်ကြောင်း ကြေညာခဲ့ကြသည်။ ထို့နောက် ကိုယ်တော်မြတ်ﷺထံ ဟဖီဒဟ်သခင်မ၏သား ဇေ့ယားဒ်နှင့်အတူ သံတမန်အဖွဲ့တစ်ဖွဲ့ အခစားဝင်ခဲ့ကြသည်။

မိုင်မူနာဟ်သခင်မသည် ကိုယ်တော်မြတ် ﷺထံပါးသို့ ဟစ်ဂျ်ရီ(၇)ခုနှစ်တွင် ရောက်ရှိခဲ့သည်။ ထိုအချိန် သခင်မကြီး၏ကြင်ယာညီအစ်မများ (၈)ဦးရှိနေသည်။ သခင်မသည် ကိုယ်တော်မြတ် ﷺ၏ နောက်ဆုံး ကြင်ယာတော်ဖြစ်သည်။

ကိုယ်တော်မြတ် သည် အားလုံးသော မိခင်မွန်များကို နှစ်စဉ် (ဝစတ်က်(၈ဝ)=(၁ဝ၄၃၂)ကီလိုဂရမ်၊ မုယောဆန် ဝစတ်က်(၂ဝ)=(၂၆ဝ၈)ကီလိုဂရမ်)ပေးရန် သတ်မှတ်ခဲ့သည်။ ဤပမာဏကို မိခင်မွန်တို့ကြိုက်နှစ်သက်သလို စီမံနိုင်သည်။ ဤပမာဏကို မိခင်မွန် မိုင်မူနဟ် သခင်မကြီးသည်လည်း ရရှိခဲ့သည်။

## မိုင်မူနဟ် رَضِيَ اللَّهُ عَنْهَا သခင်မ၏ အရည်အချင်းများ

မိုင်မူနဟ် သခင်မသည် သက္ကဝါ ရှောင်ကြဉ်မှုတရားအလွန်လက်ကိုင်ထားသူမဖြစ်သည်။ အမြဲတစေ အေဗာဒသ်တွင် မွေ့လျော်ပြီး ဆွေမျိုးတို့အား ဂရုစိုက်ကာ ၎င်းတို့လိုအပ်သမျှကူညီချင်စိတ်ရှိသူမဖြစ်သည်။ မိခင်မွန်အာအေ့ရှာ သခင်မက "ကျွန်မတို့အနက် မိုင်မူနဟ် သည် အားလုံးထက်အရှင်မြတ်ကို ပိုမိုကြောက်ရွံ့သူမဖြစ်ပြီး ဆွေမျိုးညာတိတို့အား ကရုစိုက်သူမဖြစ်သည်။"ဟု မှတ်ချက် ပြုခဲ့သည်။

အလ္လာဟ်မဟ် အိဗ်နေ့ စအဒ်က အိဗ်နေ့ အဗ္ဗါးစ်သခင်၏ အဆိုတစ်ရပ်ကို ဆင့်ပြန်ထားသည်။ "မိုင်မူနဟ် သခင်မတို့ ညီအစ်မ(၃)ဦးလုံး(မိုင်မူနဟ်၊ အတ်စ်မားအ် ၊ အွမ်မုလ်ဖသ္သွ်လ်)رَضِيَ اللَّهُ عَنْهُنَّတို့သည် စစ်မှန်သော အီမာန်ရှင်မများ ဖြစ်ကြသည်ဟု ကိုယ်တော်မြတ် صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ ကိုယ်တော်တိုင်က သက်သေပေးထားသည်။"

## ဟဂျ်ဂျသုလ် ဝဒါအ် (နောက်ဆုံးနှုတ်ဆက်ဟဂျ်)

စီရသ်သုတေသီ ဒေါက်တာဟမီဒ္ဒလ္လာဟ်رَحِمَهُ اللَّهُ၏ အဆိုအရ ကိုယ်တော်မြတ်صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ၏ နောက်ဆုံးဟဂျ်တွင် ဆွဟာဗာပေါင်း

(၁၀၄၀၀၀)ကျော်ပါဝင်ခဲ့သည်။ ထိုအထဲတွင် မိခင်မွန်အားလုံးတို့လည်း ပါဝင်သည်။ မိခင်မွန်အားလုံးတို့သည် ဟဂျ်၏ပညတ်တော်များအား သင်ယူပြီး အွမ္မသ်ကို စနစ်တကျ ပြန်လည် လက်ဆင့်ကမ်းပေးခဲ့သည်။

မိုင်မူနဟ် သခင်မကြီးသည် (၃နှစ်၄လ)ခန့် ကိုယ်တော်မြတ် ﷺနှင့်အတူ နေထိုင်ခွင့်ရရှိခဲ့သည်။ ထိုကာလအတွင်း ကိုယ်တော်မြတ် ﷺ၏ ကြင်နာယုယမှု၊ ကရုစိုက်မှုတို့ကိုလည်း ရရှိခဲ့သည်။ ဟစ်ဂျ်ရီ(၁၁)ခုနှစ်၊ ရဗီအွလ်အောက်ဝလ်လမြတ်တွင် ကိုယ်တော်မြတ် ﷺဝဖားသ်ဖြစ်သွားရာ သခင်မသည်လည်း ဆောက်တည်ရာမရဖြစ်ခဲ့ရသည်။ သို့သော်လည်း အရှင်မြတ်၏ ဆုံးဖြတ်ချက်ကို နာခံပြီး ခန္တီတရားကိုသာ လက်ကိုင်ထားလိုက်သည်။ ဤသို့ဖြင့် အွမ္မသ်ကို ကိုယ်တော်မြတ် ﷺထံမှ ဟဒီးဆ်တော်ပေါင်း (၁၂)ပုဒ် ဆင့်ပြန်ပေးခဲ့သည်။ ဗိုခါရီကျမ်းတွင် တစ်ပုဒ်၊ မွတ်စ်လင်မ်ကျမ်းတွင်(၅)ပုဒ်၊ အခြားကျမ်းများတွင် (၆)ပုဒ် အသီးသီးဖြစ်သည်။ သခင်မဆင့်ပြန်ခဲ့သည့် ဟဒီးဆ်တော်များတွင် ရှရီအသ်တရားတော်မြတ်နှင့်ပတ်သက်ပြီး အရေးပါလှသော ကဏ္ဍများကို ခြုံငုံနေကြောင်းတွေ့ရသည်။ ထိုဟဒီးဆ်တော်များတွင် ဆွေမျိုးသားချင်းများအား အဆက်ထားရန်၊ လက်အောက်ငယ်သားများအား သနားကြင်နာရန်၊ သဘောထားကြီးရန်၊ မကောင်းမှုများမှ ကြဉ်ရှောင်ရန်တို့ဖြစ်သည်။ ဤအတိုင်းပင် သာသနာတော်သည် လွယ်ကူကြောင်း၊ အရှင်မြတ်၏ နိအ်မသ်တော်များအား

တန်ဖိုးထားရမည့်အကြောင်း၊ လောကကို အတိုင်းထက်အလွန် တွယ်တာခြင်းမပြုရမည့်အကြောင်းတို့ပါဝင် သည်။

## ကွယ်လွန်တော်မူခြင်း

မိခင်မွန် မိုင်မူနဟ် သခင်မကြီးက ဝဆီ့ယသ် (သေတမ်းစာ)မှာခဲ့သည်။ " ကျွန်မကို ကိုယ်တော်မြတ် صَلَّىٱللَّهُعَلَيْهِوَسَلَّمَနှင့် ပထမဆုံး ဆုံခဲ့ရသည့် "(မက္ကာဟ်ရွှေမြို့တော်နှင့် (၁၀)မိုင်အကွာရှိ "စရိဖ်တွင် မြှုတ်နှံပေးပါ။"

သခင်မကွယ်လွန်ခဲ့သည့် ခုနှစ်နှင့်ပတ်သက်ပြီး စီရသ်ပညာရှင်များကြား သဘောထားကွဲလွဲမှုရှိသည်။

၁။ အလ္လာဟ်မ်အိဗ်နေ့ စအဒ်က မိမိ၏ သွဗကားသ်ကျမ်းတွင် ဟစ်ဂျ်ရီ(၆၁)ခု၊ ယဇီးဒ်ဗင်န်မိုအာဝေ့ယာဟ်အုပ်ချုပ်စဉ်ကာလ၊ သခင်မ၏သက်တော် (၈၁)နှစ်ဟု ဖော်ပြထားသည်။

၂။ စီရသ်ပညာရှင်အများစုက ဟစ်ဂျ်ရီ(၅၁)ခုဟု ဖော်ပြကြသည်။ အလ္လာဟ်မဟ် ရှိဗ်လီနုအ်မာနီ၊ ကာဇ္ဇီစိုလိုင်မာန် မန်စူပူရီ၊ ရှိုင်ခ်သွာလီဗ်ဟာရီမီတို့ကဲ့သို့ ပညာရှင်များကလည်း ဤအဆိုသာ မှန်ကန်ကြောင်း ထောက်ခံထားသည်။

ဟဂျ်ပြုလုပ်ပြီး မက္ကာဟ်ရွှေမြို့တော်အနီးတွင် ကွယ်လွန်ခဲ့သည်။ သခင်မ မှာတမ်းခဲ့သည့်အတိုင်း "စရိဖ်"သို့ သယ်ဆောင်လာပြီး ထိုနေရာတွင်ပင် သခင်မအား မြှုတ်နှံတော်မူခဲ့သည်။ တူတောင်မောင်

အိမ်နေ့ အဗ္ဗါးစ် رَضِيَ ٱللَّهُ عَنْهُمَا သခင်က ဂျနာဇာနမားဇ်ကို ဝတ်ပြုပေးခဲ့သည်။ ထို့နောက်သခင်က "အို... မွတ်စ်လင်မ်အပေါင်းတို့၊ ဒီမိခင်မွန်ဟာ ကိုယ်တော်မြတ် صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَ ရဲ့ နောက်ဆုံး ကြင်ယာတော်ဖြစ်ပါတယ်။ သူမရဲ့ ဂျနာဇာကို ရိုသေမှုအပြည့်နဲ့ ဖြည်းဖြည်းချင်း သယ်ဆောင်ကြပါ" ဟု မိန့်ကြားခဲ့သည်။ ထို့နောက် (၄၃)နှစ်အလျှင်၊ ဟစ်ဂျ်ရီ(၇)ခုနှစ်တွင် ကိုယ်တော်မြတ် صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَ နှင့် ပထမဆုံး တွေ့ဆုံခွင့်ရခဲ့သည့် နေရာတွင်ပင် သခင်မကို မြှုတ်နှံလိုက်သည်။

ကဗရင်ကျင်းထဲသို့ အိမ်နေ့အဗ္ဗါးစ်၊ အဗ်ဒုရ်ရဟ်မားန်ဗင်ခါလိဒ်၊ အိုဗိုင်ဒုလ္လာဟ် အလ်ခေါင်လာနီ رَضِيَ ٱللَّهُ عَنْهُمْ သခင်တို့ဆင်းခဲ့ကြသည်။

## မိခင်မွန် မိုင်မူနဟ် ﷺ၏ ဘဝမှ သင်ခန်းစာများ

၁။ ကိုယ်နှုတ်နှလုံး ဤသုံးပါးလုံးဖြင့် အီမာန်(အလ္လာဟ်အရှင်မြတ်နှင့် ရစူလ်တမန်တော်မြတ်အပေါ်) ယုံကြည်ခြင်း။

၂။ (သက္ကဝါ) အရှင်မြတ်အမိန့်တော်များအတိုင်း တသဝေမတိမ်းလိုက်နာကာ ဘဝကုန်ဆုံးခြင်း။

၃။ ဆွေမျိုးသားချင်းများအား ကရုစိုက်ခြင်း၊ အဆက်အသွယ်ထားခြင်း။

၄။ သက်တမ်းတစ်ခုလုံးသည် မင်္ဂလာအတိပြီးနေခြင်း။

၅။ အွမ္မှသ်ဆီ မြတ်ကိုယ်တော်၏ သင်ကြားချက်များကို ကရုတစိုက် လက်ဆင့်ကမ်းပေးခဲ့ခြင်း။

၆။ ကိုယ်တော်မြတ် နှင့်ပတ်သက်သမျှ အမှတ်တရတိုင်းကို ကရုတစိုက် ထိန်းသိမ်းမှတ်တမ်းတင်ထားခြင်း။

## မာရိယဟ် အလ်ကိဗ်သွီယဟ် رَضِيَ ٱللَّهُ عَنْهَا နှင့် တဒင်္ဂ

အမည် - မာရီယဟ်

မျိုးရိုးစဉ်ဆက် - مارية بنت شمعون القبطية

ဂုဏ်ထူးဆောင်အမည်- အွမ္မေ့အိဗ်ရာဟီးမ်

ဖခင် - ရှမ်အူးန်

မွေးချင်းညီအစ်မ - စီရီးန်ဗင်န်သေ့ရှမ်အူးန်

ယခင်အိမ်ထောင်ဆက် - မရှိ

သားသမီး - အိဗ်ရာဟီးမ် رَضِيَ ٱللَّهُ عَنْهُ

ဖွားမြင်ခြင်း - ဟဖ်န်ရွာ၊ အီဂျစ်နိုင်ငံ

ဖွားမြင်သည့်နေရာ - မက္ကာရွှေမြို့တော်

ကွယ်လွန်တော်မူခြင်း - ဟစ်ဂျ်ရီ(၁၆)ခု၊ မုဟာရ်ရမ်လ(၁၆)ရက်၊ ခရစ်နှစ် (၆၃၇)ခုနှစ်

ကွယ်လွန်သည့် နေရာ - မဒီနာရွှေမြို့တော်၊ (ဗကီးအ်သင်္ချိုင်းအတွင်း သားတော်အိဗ်ရာဟီးမ်رَضِيَ ٱللَّهُ عَنْهُဘေးတွင် မြှုတ်နှံခံရ)၊ အိုမရ် رَضِيَ ٱللَّهُ عَنْهُ သခင်ကိုယ်တိုင် ဂျနာဇာနမားဇ်ဖတ်ပေးပြီး ဒိုအာပြုပေးခဲ့။)

ကိုယ်တော်မြတ် صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَနှင့် နေထိုင်ခွင့်ရခဲ့သည့် ကာလ -

## မာရိယဟ် အလ်ကိဗ်သွီယဟ် رَضِيَ اللَّهُ عَنْهَا ၏အတ္ထုပ္ပတ္တိအကျယ်

### ကမ္ဘာတဝှမ်းသို့ နဗီ့သဝဏ်လွှာ

ဟစ်ဂျ်ရီ(၆)ခုနှစ် ဟိုဒိုင်ဗီယဟ် ငြေငြိမ်းရေး စာချုပ်ချုပ်ဆိုပြီးသောအခါ ကိုယ်တော်မြတ်ﷺသည် ကမ္ဘာ့နိုင်ငံ အသီးသီးရှိ ဘုရင်များ၊ ဘုရင်ခံများထံ သဝဏ်လွှာများ ပေးပို့ခဲ့ပြီး အစ္စလာမ်သာသနာတော်ဘက်သို့ ဖိတ်ခေါ်တော်မူခဲ့သည်။ ၎င်းတို့အထဲတွင် အလက်ဇာန်းဒါးရှိ ရောမဘုရင် "မိုကောင်ကစ်"လည်း ပါဝင်ခဲ့သည်။ ၎င်းထံ သံတမန် ဟာသွိဗ်ဗင်အဗီဗလ်သအဟ်رَضِيَ اللَّهُ عَنْهُသခင်က ကိုယ်တော့် သဝဏ်လွှာယူဆောင်သွားခဲ့သည်။ မိုကောင်ကစ်သည် အစ္စလာမ်ကို တော့လက်မခံခဲ့ပါ။ သို့သော် ကိုယ်တော့် သံတမန်အား လေးလေးစားစား ဆက်ဆံခဲ့ပြီး အလက်ဇန်းဒါကအပြန် ကိုယ်တော့်ထံ သဝဏ်လွှာတစ်စောင် ပေးပို့ခဲ့သည်။ ထိုသဝဏ်လွှာပါ အချက်အလက်များမှာ...

၁။ နောက်ဆုံးနဗီတစ်ပါးပွင့်ပေါ်မည်ကို သိရှိကြောင်း။

၂။ ထိုနဗီသည် ဆီးရီးယီးဘက်မှ ပွင့်ပေါ်မည်ဟု ထင်မိခဲ့ကြောင်း။

၃။ ကိုယ်တော့် သံတမန်ကိုလည်း အထူးလေးစား ဂုဏ်ပြုကြောင်း။

၄။ ကိုယ်တော်မြတ် ﷺအတွက် မိမိမျိုးနွယ်တွင် ဂုဏ်သရေရှိ အမျိုးသမီးနှစ်ဦး၊ တန်ဖိုးကြီး အဝတ်အစားများနှင့် စီးနင်းရန် (ဒုလ်ဒုလ်) အမည်ရှိ လားတစ်ကောင်ကို လက်ဆောင်ပေးအပ်ကြောင်း။

မိုကောင်ကစ်ပေးပို့ခဲ့သော အမျိုးသမီးနှစ်ဦးအနက်တစ်ဦးမှာ မာရိယဟ် ဖြစ်ပြီးအခြားတစ်ဦးမှာ သူမ၏ညီမ စီရီးန်ဖြစ်သည်။

မာရိယဟ်သခင်မသည် အလွန်ချောမောလှပပြီးပန်းနုရောင် အသား အရေကို ပိုင်ဆိုထားကြောင်း စီရသ်ပညာရှင်များက ဖော်ပြကြသည်။ အီဂျစ်နိုင်ငံမှ မဒီနာမြို့သို့ လာနေသည့်လမ်း၌ပင် ဟာသွိဗ်သခင်၏ဖိတ် ခေါ်မှုဖြင့် သခင်မတို့နှစ်ဦးလုံး အစ္စလာမ်လက်ခံခဲ့ကြသည်။

## မဒီနာသို့ရောက်ရှိခြင်း

သခင်မတို့ မဒီနာသို့ရောက်ရှိသောအခါ ကိုယ်တော်မြတ်ﷺက စီရီးန်သခင်မကို စာဆိုတော် ဟစ္စာားန်ဗင်န်ဆာဗိဒ်رَضِيَ ٱللَّٰهُ عَنْهُနှင့် ထိမ်းမြား ပေးခဲ့သည်။ မာရိယဟ်သခင်မကိုမူ ကိုယ်တော်ကိုယ်တိုင် လက်ထပ် ထိမ်းမြားလိုက်သည်။

ထို့နောက် မဒီနာမြို့တော်၏ အာလေ့ယဟ်အရပ်တွင် သခင်မ အား ထားရှိခဲ့သည်။ သခင်မနေထိုင်ခဲ့သည့် နေရာကို مشربة أم إبراهيم "မရှ်ရဗဟ်အွမ္မေ့အိဗ်ရာဟီးမ်" ဟု ခေါ်ဆိုကြသည်။ ယနေ့ခေတ်တွင် ဆော်ဒီအစိုးရက ထိုနေရာကို စနစ်တကျ ပြန်လည် ထိန်းသိမ်းထားပြီး အုပ်တံတိုင်းအဝါရောင်များဖြင့် ကာရံထားသည်။

သခင်မသည် ကိုယ်တော်မြတ်ﷺထံ ကျွန်မအဖြစ် ရောက်ရှိခဲ့ သော်လည်း ကိုယ်တော်မြတ်ﷺက ပရ်ဒဟ်ပြုလုပ်ရန် အမိန့်ပေးခဲ့သည်။ ထိုအချိန် သခင်မ၏ သက်တော်မှာ (၂၀)ဖြစ်သည်။ သခင်မကို စောင့် ရှောက်ရန်အတွက် အဗူရာဖေ့အ်သခင်၏ဇနီး စလ်မာ သခင်မကိုခန့် အပ်ခဲ့သည်။ မကြာမီသခင်မသည် ကိုယ်ဝန်ရှိလာခဲ့သည်။

## သမိုင်းကွင်းဆက် ပြန်လည်ဆက်ခြင်း

တစ်ချိန်က ကိုယ်တော်မြတ်ﷺ၏ အထက်ဆက်အဖိုးအိဗ်ရာဟီးမ်عَلَيْهِ الصَّلَاةُ وَالسَّلَامُ၏ ကြင်ယာ ဟာဂျေ့ရဟ် သခင်မကြီးသည် အီဂျစ်နိုင်ငံ၏ တော်ဝင်မင်းသမီးဖြစ်သည်။ ဤအတိတ်သမိုင်းအား ပြန်လည်ပြီး ခိုင်မာစွာတည်ဆောက်နိုင်ရန် မိုကောင်ဝ်ကစ်ဘုရင်က အီဂျစ်နိုင်ငံ၏တော်ဝင်မင်းသမီးနှစ်ပါးဖြစ်သည့် မာရိယဟ်သခင်မနှင့် စီရီးန်သခင်မတို့အား ချီးမြှင့်ခြင်းဖြစ်သည်။ ဤသို့ဖြင့် အတိတ်သမိုင်း ကွင်းဆက်ပြန်လည် ဆက်ခွင့်ရရှိခဲ့သည်။

## သားရတနာထွန်းကားခြင်း

မာရိယဟ်သခင်မသည် ကိုယ်တော်မြတ်ﷺ၏ အစေခံအဖြစ်သတ်မှတ်ခံရသည်။ သက်တော် (၂၀)တွင် ကိုယ်တော်မြတ်ﷺထံသို့ရောက်ရှိခဲ့သည်။

ဟစ်ဂျ်ရီ(၈)ခုနှစ်တွင် မာရိယဟ်သခင်မထံမှ အိဗ်ရာဟီးမ်رَضِيَ اللَّهُ عَنْهُအမည်ရှိ သားတော်တစ်ပါး ကိုယ်တော်မြတ်ﷺအတွက် ထွန်းကားခဲ့သည်။ အိဗ်ရာဟီးမ်رَضِيَ اللَّهُ عَنْهُသခင်သည် (၁၈)လသား အရွယ်တွင်ကွယ်လွန်သွားခဲ့သည်။

အိဗ်ရာဟီးမ်သခင်မွေးဖွားကြောင်း အဗူရာဖေ့အ်က ကိုယ်တော့်အား အကြောင်းကြားသောအခါ ကိုယ်တော်မြတ်ﷺသည် ဝမ်းမြောက်လွန်းသဖြင့် အဗူရာဖေ့အ်အား ကျွန်တစ်ဦးချီးမြှင့်ခဲ့သည်။ အိဗ်နေ့ စအဒ်၏ဆင့်ပြန်ချက်တစ်ခုတွင် အိဗ်ရာဟီးမ်رَضِيَ اللَّهُ عَنْهُ မွေးဖွားချိန် ဂျိဗ်ရာအီးလ်ကြွမြန်းလာပြီး “ السلام عليك ياأبا إبراهيم (အို....အိဗ်ရာဟီးမ်၏ဖခင်၊

အသင့်အပေါ် ငြိမ်းချမ်းသာယာမှုအပေါင်း ခသောင်းပါစေ”ဟု လာရောက်လျှောက်ထားခဲ့သည်။ ထိုအခါ ကိုယ်တော်မြတ်ﷺသည် ပြုံးပျော်တော်မူခဲ့သည်။

(၇)ရက်မြောက်နေ့တွင် ကိုယ်တော်မြတ်ﷺသည် သားတော်အတွက် အကီကဟ်ပြုလုပ်ပေးခဲ့သည်။ ထို့နောက် ဆံပင်ရိတ်ပေးပြီး ထိုဆံပင်နှင့်အညီငွေပမာဏကို ဆွဒကဟ်ထုတ်ပေးပြီး ထိုဆံပင်များကို မြေမြှုတ်လိုက်သည်။ အရဗ်တို့၏ထုံးတမ်းစဉ်လာအရ အိဗ်ရာဟီးမ်သခင်အတွက်လည်း နို့ထိမ်းသည်အဖြစ် အွမ္မေ့ဘုရ်ဒဟ် အန်ဆွာရိယဟ်ကို ခန့်အပ်ခဲ့သည်။

## အိဗ်ရာဟီးမ် رَضِيَ اللَّهُ عَنْهُ သခင်ကွယ်လွန်ခြင်း

အွမ္မေ့ဘုရ်ဒဟ်ထံတွင်ရှိနေခိုက် (၁၈)လခန့်အကြာ၊ အေမာမ်ဝါကေ့ဒီ၏ အဆိုအရ ဟစ်ဂျ်ရီ(၁၀)ခုနှစ်၊ ရဗီအွလ် အောက်ဝလ်လမြတ်တွင် သားတော် အိဗ်ရာဟီးမ်သည် အသက်ငင်လာသည်။ သတင်းရသည်နှင့် တစ်ပြိုင်နက် ကိုယ်တော်မြတ်ﷺသည် အဗ်ဒုရ်ရဟ်မားန်ဗင်န်အောင်ဝ်ဖ်رَضِيَ اللَّهُ عَنْهُနှင့်အတူ သားတော်ရှိရာသို့ ကြွမြန်းလာခဲ့သည်။ သားတော်သည် အသင်ငယ်နေချိန်ဖြစ်သည်။ ကိုယ်တော်မြတ်ﷺက သားတော်အား ရင်ဝယ်ထွေးပိုက်လိုက်သည်။ မျက်လုံးအစုံမှ မျက်ရည်များ ယိုစီးကျလာသည်။ ထို့နောက် “သားလေး အိဗ်ရာဟီးမ် မင်းလေးနဲ့ ခွဲခွာရတဲ့အတွက် ငါတို့တတွေ ပူဆွေးဝမ်းနည်းကြပါတယ်။ မျက်လုံးအစုံ ကလည်း မျက်ရည်တွေ စီးနေပြီ၊ နှလုံးသားလည်း ကြေကွဲနေရပါပြီ။ သို့ပေမယ့် တို့တတွေဟာ အရှင်မြတ်ရဲ့ကျေနပ်နှစ်သက်မှုနဲ့ ဆန့်ကျင်ဘက်ဘယ်လို စကားမျိုးကိုမှ ပြောဆိုမှာ မဟုတ်ပါဘူး။” ဟု မိန့်ကြားခဲ့သည်။

## နေကြတ်ခြင်း

သားတော် အိဗ်ရာဟီးမ်ﷺကွယ်လွန်သည့်နေ့တွင် တိုက်ဆိုင်စွာဖြင့် နေကြတ်ခဲ့သည်။ လူကြီးလူကောင်းတစ်ယောက် ကွယ်လွန်ချိန် နေကြတ်၊ လကြတ်ဖြစ်တတ်သည်ဟူသော အယူတစ်ခုလည်း အရဗ်လူမျိုးတို့ထံတွင်ရှိသည်။ ဆွဟာဗာအချို့က သားတော် ကွယ်လွန်သည့်အတွက် နေကြတ်ခြင်းဖြစ်သည်ဟု ယူဆကြသည်။ ကိုယ်တော်မြတ်ﷺက "နေနှင့်လသည် အလ္လာဟ်အရှင်မြတ်တည်ရှိကြောင်း ညွှန်ပြနေသည့် သက်သေလက္ခဏာတော်များဖြစ်သည်။ တစ်ဦးတစ်ယောက်၏ ကွယ်လွန်သေဆုံးခြင်းကြောင့် မကြတ်ပေ" ဟု မိန့်ကြားလိုက်သည်။

## မာရိယဟ် رضي الله عنهاသခင်မကွယ်လွန်တော်မူခြင်း

ဟစ်ဂျ်ရီ(၁၆)ခုနှစ်၊ မုဟာရ်ရမ်လမြတ်တွင် မာရိယဟ် رضي الله عنها သခင်မ ကွယ်လွန်တော်မူခဲ့သည်။ သမ္မတကြီး အုမရ်رضي الله عنه ကိုယ်တိုင် ဂျနာဇာနမားဇ်ဝတ်ပြုပေးခဲ့သည်။ ထို့နောက် ဗကီးအ်သင်္ချိုင်းတွင် မြှုတ်နှံပေးခဲ့သည်။

## အထူးမှတ်သားရန်

**မာရိယဟ် رضي الله عنهاသခင်မအား ကိုယ်တော်မြတ်ﷺက ကျွန်မအဖြစ် ထားသော်လည်း သခင်မသည် ကိုယ်တော်မြတ်ﷺအတွက် သားရတနာ မွေးဖွားပေးခဲ့သည့်အတွက် သခင်မအကြောင်းကို သီးသန့် ရေးသား ဖော်ပြခြင်းဖြစ်ပါသည်။**

## မှီငြမ်းကျမ်းများ

## မိခင်မွန်တို့နှင့်စပ်လျဉ်းသည့် ဗဟုသုတဇယား

| စဉ် | မိခင်မွန်၏ အမည် | ထိမ်းမြားသည့်ခုနှစ် | ကွယ်လွန်သည့်ခုနှစ် | ဆင့်ပြန်သည့် ဟဒီးဆ် |
|---|---|---|---|---|
| ၁ | ခဒီဂျာ ﵂ | န၉ | | |
| ၂ | စောင်ဝ်ဒဟ်﵂ | | | |
| ၃ | အာအေ့ရှာ ﵂ | | | |
| ၄ | ဟဖ့်ဆွာ ﵂ | | | |
| ၅ | ဇိုင်နဗ် ဗင်န်သေ့ ခုဇိုင်မဟ် ﵂ | | | |
| ၆ | အွမ္မေ့စလမဟ် ﵂ | | | |
| ၇ | ဇိုင်နဗ်ဗင်န်သေ့ ဂျဟ်ရှ်﵂ | | | |
| ၈ | ဂျုဝိုင်ရီယဟ် ﵂ | | | |
| ၉ | အွမ္မေ့ဟဘီဘာ ﵂ | | | |
| ၁၀ | ဆွဖီယာ ﵂ | | | |
| ၁၁ | မိုင်မူနဟ်﵂ | | | |